

မဟာစည်နာယက

အဂ္ဂမဟာကမ္မဋ္ဌာနာစရိယ၊ အဘိဓဇမဟာရဋ္ဌဂုရု

## သဒ္ဓမ္မရံသီရိပ်သာဆရာတော်

# အရှင်ကုဏ္ဍလာဘိဝံသ

ဟောကြား ရေးသားစီရင်အပ်သော

# ဝိပဿနာဉာဏ်များဖြစ်လာ

# သိကြောင်းစရာ




ဒုတိယအကြိမ်


သာသနာ - ၂၅၅၂ ကောဇာ - ၁၃၇၀ ခရစ် - ၂၀၀၈

မဟာစည်နာယက

အဂ္ဂမဟာကမ္မဋ္ဌာနာစရိယ၊ အဘိဓဇမဟာရဋ္ဌဂုရု

## သဒ္ဓမ္မရံသီရိပ်သာဆရာတော်

# အရှင်ကုဏ္ဍလာဘိဝံသ

ဟောကြား ရေးသားစီရင်အပ်သော

# ဝိပဿနာဉာဏ်များဖြစ်လာ

# သိကောင်းစရာ




ဒုတိယအကြိမ်

သာသနာ - ၂၅၅၂ ကောဇာ - ၁၃၇၀ ခရစ် - ၂၀၀၉

ပုံနှိပ်မှတ်တမ်း
ဘာသာရေးဆိုင်ရာစာမူခွင့်ပြုချက်အမှတ်
၃၂၀၂၇၁၀၃၀၉
မျက်နှာဖုံးခွင့်ပြုချက်အမှတ်
၃၂၀၃၁၂၀၃၀၉
ပုံနှိပ်ခြင်း
ဒုတိယအကြိမ်
အုပ်ရေ - ၃၀၀၀
တန်ဖိုး -
ပုံနှိပ်ပြီးသည့်လ
မတ်လ၊ ၂၀၀၉-ခုနှစ်
မျက်နှာဖုံးနှင့်အတွင်းပုံနှိပ်သူ
ဦးသိန်းထွန်း (၀၄၈၂၂)
သိန်းထွန်းအော့ဖ်ဆက်၊ ၅၀/၅၂၊ဒဂုံသိရိလမ်း၊
ကျောက်မြောင်း၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့။
ဖုန်း - ၀၁-၅၄၂၀၅၆
ထုတ်ဝေသူ
ဒုတိယဗိုလ်မှူးကြီး တင်အောင်(လေ-အငြိမ်းစား)။ (၀၃၃၆၆)
သဒ္ဓမ္မရံသီစာပေ၊ အမှတ်-၇၊ ဓမ္မာရာမေမာလမ်း၊
မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့မှ ထုတ်ဝေသည်။
ဖုန်း - ၀၁-၆၆၁၅၉၇ ၊ ၆၅၀၅၇၆



သဒ္ဓမ္မရံသီရိပ်သာပဓာနနာယကဆရာတော်

အဂ္ဂမဟာကမ္မဋ္ဌာနာစရိယ

အဘိဓဇမဟာရဋ္ဌဂုရု

ဘဒ္ဒန္တကုဏ္ဍလာဘိဝံသ

# နိဒါန်း

ယခုခေတ်အခါသည် ဝိပဿနာတရား ထွန်းကားလာသောခေတ်အခါ ဖြစ်ပေသည်။ ထို့ကြောင့် ဗုဒ္ဓဘာသာဝင်ပုဂ္ဂိုလ်တို့သည် ဝိပဿနာတရားကို အချိန်ရသမျှ အားထုတ်လျက်ရှိကြပေသည်။ ဝိပဿနာတရားအားထုတ်၍ သမာဓိဉာဏ်များဖြစ်လာသောအခါ တရားသဘောများကို တွေ့သိလာကြပေသည်။ ဤကဲ့သို့ တွေ့သိလာကြသောအခါ မိမိတို့ တွေ့သိကြရသောတရားသဘောများသည် မှန်မမှန်ဟုလည်း သိလိုကြပေသည်။ မိမိတို့သည် မည်သည့်ဉာဏ်အဆင့်သို့ ရောက်ရှိနေကြသည်ကိုလည်း သိလိုကြပေသည်။

မိမိတို့ ရောက်ရှိနေကြသော ဉာဏ်အဆင့်အမှန်ကို သိကြသောယောဂီပုဂ္ဂိုလ်တို့သည် မိမိတို့ အားထုတ်ဆဲတရားအပေါ်၌ ယုံကြည်ချက်သဒ္ဓါတရားများ ပို၍ထက်သန်လာသောကြောင့် ပို၍ကြိုးစားအားထုတ်ချင်သည့်စိတ်များ ဖြစ်လာတတ်

ကြပေသည်။ ပို၍လည်း ကြိုးစားအားထုတ်နိုင်လာကြမည် ဖြစ်ပေသည်။

ထို့ပြင် ဝိပဿနာတရား အားထုတ်ကြသောပုဂ္ဂိုလ်တို့သည် ဝိပဿနာဉာဏ်စဉ်အားလျော်စွာ တစ်ခါတစ်ခါ ရှုမှတ်၍ကောင်းကြပေသည်။ တစ်ခါတစ်ခါ ရှုမှတ်၍မကောင်းဘဲ ဖြစ်ကြရပေသည်။

ရှုမှတ်၍ကောင်းသော ဝိပဿနာဉာဏ်စဉ်များသို့ ရောက်သွားသောအခါ ဝိပဿနာပီတိသုခတို့၌ နှစ်သက်သာယာနေကြ၍ တရားတွေ ရှေ့သို့ မတက်ဘဲဖြစ်နေတတ်ကြပေသည်။ တရားတွေ ကြာနေတတ်ကြပေသည်။ ရှုမှတ်၍မကောင်းသော ဝိပဿနာဉာဏ်စဉ်များသို့ ရောက်သွားသောအခါ ကိုယ်ဆင်းရဲ၊ စိတ်ဆင်းရဲများ ဖြစ်ကြရ၍ တရားအားမထုတ်ချင်တော့ဘဲ ဖြစ်သွားတတ်ကြပေသည်။

ဤကဲ့သို့ မဖြစ်ရလေအောင် ဝိပဿနာဉာဏ်စဉ်များ၏ ကောင်းသည့်သဘောနှင့် ဆိုးသည့်သဘောတို့ကို သိထားသင့်ကြပေသည်။ ကောင်းသည့်သဘော၊ ဆိုးသည့်သဘောများကို သိထားကြမှသာ အကောင်းနှင့်အဆိုး ဤနှစ်မျိုးတို့ကို ကျော်လွန်၍ သွားရအောင် ရှုမှတ်နိုင်ကြမည် ဖြစ်ပေသည်။ ကျော်လွန်သွား

## နိဒါန်း

ရအောင် ရှုမှတ်နိုင်မှသာ မိမိတို့ အလိုရှိအပ်သည့် မဂ်ဖိုလ်နိဗ္ဗာန် တရားထူးတရားမြတ်များကို ရရှိသွားနိုင်ကြမည် ဖြစ်ပေသည်။

ထို့ကြောင့် မိမိတို့ ရောက်ရှိနေကြသော ဉာဏ်စဉ်အဆင့် အမှန်ကို သိထားခြင်းဖြင့်လည်းကောင်း၊ ဝိပဿနာဉာဏ်စဉ်များ၏သဘောကို သိထားခြင်းဖြင့်လည်းကောင်း ဝိပဿနာတရား အားထုတ်ချင်သော စိတ်ဓာတ်များ ထက်သန်ကာ ကြိုးစားအား ထုတ်နိုင်ကြစေရန် ရည်သန်၍ "**ဝိပဿနာဉာဏ်များဖြစ်လာ သိကောင်းစရာ**" ဤစာအုပ်ကို ရေးသားလိုက်ရပါသည်။

သဒ္ဓမ္မရံသီရိပ်သာဆရာတော်

# မာတိကာ

# နာမရူပပရိစ္ဆေဒဉာဏ်ဖြစ်လာ
# သိကောင်းစရာ

ယခုခေတ်အခါသည် ဝိပဿနာတရား ထွန်းကားလာသောခေတ်အခါ ဖြစ်ပေသည်။ ထို့ကြောင့် ဗုဒ္ဓဘာသာဝင်ပုဂ္ဂိုလ်တို့သည် ဝိပဿနာတရားကို အချိန်ရသမျှ အားထုတ်လျက်ရှိကြပေသည်။ ဝိပဿနာတရားအားထုတ်၍ သမာဓိဉာဏ်များဖြစ်လာသောအခါ တရားသဘောများကို တွေ့သိလာကြပေသည်။ ဤကဲ့သို့ တွေ့သိလာကြသောအခါ မိမိတို့ တွေ့သိကြရသောတရားသဘောများသည် မှန်မမှန်ဟုလည်း သိလိုကြပေသည်။ မိမိတို့သည် မည်သည့်ဉာဏ်အဆင့်သို့ ရောက်ရှိနေကြသည်ကိုလည်း သိလိုကြပေသည်။

မိမိတို့ ရောက်ရှိနေကြသော ဉာဏ်အဆင့်အမှန်ကို သိကြသောယောဂီပုဂ္ဂိုလ်တို့သည် မိမိတို့ အားထုတ်ဆဲတရားအပေါ်၌ ယုံကြည်ချက်သဒ္ဓါတရားများ ပို၍ထက်သန်လာကြ

သောကြောင့် ပို၍ကြိုးစားအားထုတ်ချင်သည့်စိတ်များ ဖြစ်လာတတ်ကြပေသည်။ ပို၍လည်း ကြိုးစားအားထုတ်နိုင်လာကြမည် ဖြစ်ပေသည်။ ဤကဲ့သို့ ဝိပဿနာတရားအားထုတ်ချင်သောစိတ်ဓာတ်များ ထက်သန်ကာ ကြိုးစားအားထုတ်နိုင်ကြစေရန် ရည်သန်၍ ဤ "နာမရူပပရိစ္ဆေဒဉာဏ်ဖြစ်လာ သိကောင်းစရာ" တရားဆောင်းပါးကို ရေးသားလိုက်ရပါသည်။

ကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီး ညွှန်ပြသောနည်းဖြင့် ဝိပဿနာတရား အားထုတ်ကြသောပုဂ္ဂိုလ်တို့သည် ထိုင်မှတ်သောအခါ ဖောင်းတယ်၊ ပိန်တယ်၊ ထိုင်တယ်၊ ထိတယ်ဟု ရှုမှတ်ကြရပေသည်။ ယင်းကဲ့သို့ ရှုမှတ်ကြရာတွင် ရှုမှတ်ခါစ သမာဓိဉာဏ်များ မဖြစ်သေးမီမှာတော့ မည်ကဲ့သို့မျှ ထူးခြားစွာ မသိကြရသေးပေ။ ဆက်ကာဆက်ကာရှုမှတ်၍ သမာဓိဉာဏ်များ ဖြစ်ပေါ်လာသောအခါ ထူးခြားစွာ သိလာကြပေသည်။

## ထိုင်မှတ်၌ နာမရူပပရိစ္ဆေဒဉာဏ်ဖြစ်ပုံ

ဖောင်းတယ်ဟု ရှုမှတ်လိုက်သောအခါ ဖောင်းနေတာကတခြား မှတ်သိလိုက်တာကတခြား။ ပိန်တယ်ဟု ရှုမှတ်လိုက်သောအခါ ပိန်နေတာကတခြား မှတ်သိလိုက်တာကတခြား၊

ထိုင်တယ်ဟု ရှုမှတ်လိုက်သောအခါ ထိုင်နေတာကတခြား မှတ်သိလိုက်တာကတခြား။ ထိတယ်ဟု ရှုမှတ်လိုက်သောအခါ ထိနေတာကတခြား မှတ်သိလိုက်တာကတခြားဟူ၍ ကွဲပြားကာ သိလာကြပေသည်။

ဖောင်းတာ၊ ပိန်တာ၊ ထိုင်တာ၊ ထိတာတို့က အာရုံကို မသိတတ်သောကြောင့် ရုပ်တရားဖြစ်သည်၊ ဖောင်းတယ်၊ ပိန်တယ်၊ ထိုင်တယ်၊ ထိတယ်ဟု မှတ်သိမှတ်သိလိုက်တာက သိတတ်သောကြောင့် နာမ်တရားဖြစ်သည်ဟု နာမ်နှင့်ရုပ် ကွဲပြားကာ ပိုင်းခြား၍ သိလာကြပေသည်။ ဤကဲ့သို့ နာမ်တရားနှင့်ရုပ်တရားနှစ်ပါး ကွဲပြားကာ ပိုင်းခြား၍ သိလာခြင်းသည် နာမရူပပရိစ္ဆေဒဉာဏ် ဖြစ်လာခြင်းပင် ဖြစ်ပေသည်။

နည်းမှန်လမ်းမှန် သတိပဋ္ဌာန်ဝိပဿနာတရား အားထုတ်ကြသော နိုင်ငံခြားသားတို့သည်လည်း နာမရူပပရိစ္ဆေဒဉာဏ်ဖြစ်တာ ကိုယ်တိုင်သိကြပေသည်။ မြန်မာဝေါဟာရ၊ ပါဠိဝေါဟာရများကို ကောင်းစွာမပြောတတ်ကြသောကြောင့် နာမရူပပရိစ္ဆေဒဉာဏ်ဖြစ်ပုံကို ဤကဲ့သို့ ပြောကြားလေ့ရှိကြပေသည်။ ဝိပဿနာတရား ရှုမှတ်ခါစမှာတော့ သူ့မှာ လူတစ်ယောက်တည်းပင် ဖြစ်ပေသည်။ ယခုတော့ လူနှစ်ယောက်ဖြစ်နေပြီဟု ပြောကြားလေ့ရှိကြပေသည်။

ထိုနိုင်ငံခြားသားတို့ ပြောကြားလိုရင်းမှာ ဖောင်းတာ၊ ပိန့်တာ၊ ထိုင်တာ၊ ထိတာတို့က လူတစ်ယောက်ကဲ့သို့ တခြားဖြစ်သည်။ မှတ်သိမှတ်သိလိုက်တာတို့က လူတစ်ယောက်ကဲ့သို့ တခြားဖြစ်သည်ဟု ပြောကြားလိုရင်း ဖြစ်ပေသည်။ နာမ်တရားနှင့်ရုပ်တရားနှစ်ပါး ကွဲပြားကာ ပိုင်းခြား၍ သိလာခြင်းပင် ဖြစ်ပေသည်။ နာမရူပပရိစ္ဆေဒဉာဏ် ဖြစ်လာခြင်းပင် ဖြစ်ပေသည်။

နှာခေါင်းမှ ဝင်လေ၊ ထွက်လေ ထိသိကိုရှုမှတ်ကြသည့် အာနာပါနဖြင့် ဝိပဿနာတရားအားထုတ်ကြသော ယောဂီပုဂ္ဂိုလ်တို့သည်လည်း သမာဓိဉာဏ်များဖြစ်လာသောအခါ ဝင်လေထိမှုကို ရှုမှတ်လိုက်လျှင် ဝင်လေထိမှုကတခြား မှတ်သိလိုက်တာက တခြား။ ထွက်လေထိမှုကို ရှုမှတ်လိုက်လျှင်လည်း ထွက်လေထိမှုကတခြား မှတ်သိလိုက်တာကတခြားဟု ကွဲပြားကာ ပိုင်းခြား၍ သိလာကြပေသည်။

ဝင်လေထိမှု၊ ထွက်လေထိမှုတို့က အာရုံကို မသိတတ်သောကြောင့် ရုပ်တရားဖြစ်သည်၊ မှတ်သိမှတ်သိလိုက်တာများက သိတတ်သောကြောင့် နာမ်တရားဖြစ်သည်ဟု နာမ်နှင့်ရုပ် ကွဲပြားကာ ပိုင်းခြား၍ သိလာကြပေသည်။ ဤကဲ့သို့ နာမ်တရားနှင့်ရုပ်တရားနှစ်ပါး ကွဲပြားကာ ပိုင်းခြား၍ သိလာခြင်းသည် နာမရူပပရိစ္ဆေဒဉာဏ် ဖြစ်လာခြင်းပင် ဖြစ်ပေသည်။

## စကြံမှတ်ရာ၌ နာမရူပပရိစ္ဆေဒဉာဏ်ဖြစ်လာပုံ

စကြံလျှောက်၍ ကြွတယ်၊ လှမ်းတယ်၊ ချတယ်ဟု ရှုမှတ်လိုက်သည့်အခါမှာလည်း သမာဓိဉာဏ်များဖြစ်လာသော အခါ ကြွတယ်ဟုရှုမှတ်လိုက်လျှင် ကြွနေတာကတခြား မှတ်သိလိုက်တာကတခြား၊ လှမ်းတယ်ဟုရှုမှတ်လိုက်လျှင် လှမ်းနေတာကတခြား မှတ်သိလိုက်တာကတခြား၊ ချတယ်ဟုရှုမှတ်လိုက်လျှင် ချနေတာကတခြား မှတ်သိလိုက်တာကတခြားဟု ကွဲပြားကာ သိလာကြပေသည်။

ကြွသည့်၊ လှမ်းသည့်၊ ချသည့် အမူအရာများက အာရုံကို မသိတတ်သောကြောင့် ရုပ်တရားဖြစ်သည်၊ ကြွတယ်၊ လှမ်းတယ်၊ ချတယ်ဟု မှတ်သိလိုက်တာများက သိတတ်သောကြောင့် နာမ်တရားဖြစ်သည်ဟု နာမ်တရားနှင့်ရုပ်တရားနှစ်ပါး ကွဲပြားကာ ပိုင်းခြား၍ သိလာခြင်းသည် နာမရူပပရိစ္ဆေဒဉာဏ် ဖြစ်လာခြင်းပင် ဖြစ်ပေသည်။ စကြံလျှောက်၍ ရှုမှတ်ရာ၌ နာမရူပပရိစ္ဆေဒဉာဏ် ဖြစ်လာခြင်းပင် ဖြစ်ပေသည်။

## ဣရိယာပုထ်(၄)ပါးတို့၌ နာမရူပပရိစ္ဆေဒဉာဏ်ဖြစ်လာပုံ

သွားတယ်၊ သွားတယ်၊ ရပ်တယ်၊ ရပ်တယ်၊ ထိုင်တယ်၊ ထိုင်တယ်၊ လျောင်းတယ်၊ လျောင်းတယ်ဟု ဣရိယာပုထ်(၄)ပါး

တို့၌ ရှုမှတ်ကြရာတွင် သွားတယ်၊ သွားတယ်ဟု ရှုမှတ်လိုက်သောအခါ သွားနေတာကတခြား၊ မှတ်သိလိုက်တာကတခြားဟု ကွဲပြားကာ သိလာကြပေသည်။ သွားနေသည့် အမူအရာများက အာရုံကို မသိတတ်သောကြောင့် ရုပ်တရားဖြစ်သည်၊ မှတ်သိမှတ်သိလိုက်တာများက သိတတ်သောကြောင့် နာမ်တရားဖြစ်သည်ဟု နာမ်တရားနှင့်ရုပ်တရားနှစ်ပါး ကွဲပြားကာ ပိုင်းခြား၍ သိခြင်းသည် နာမရူပပရိစ္ဆေဒဉာဏ် ဖြစ်လာခြင်းပင် ဖြစ်ပေသည်။

ရပ်တယ်၊ ရပ်တယ်ဟု ရှုမှတ်လိုက်သောအခါ ရပ်နေတာကတခြား၊ မှတ်သိမှတ်သိလိုက်တာကတခြားဟု ကွဲပြားကာ သိလာကြပေသည်။ ရပ်နေသည့် ကိုယ်အမူအရာများက အာရုံကို မသိတတ်သောကြောင့် ရုပ်တရားဖြစ်သည်၊ မှတ်သိမှတ်သိလိုက်တာများက သိတတ်သောကြောင့် နာမ်တရားဖြစ်သည်ဟု နာမ်တရားနှင့်ရုပ်တရားနှစ်ပါး ကွဲပြားကာ ပိုင်းခြား၍ သိခြင်းသည် နာမရူပပရိစ္ဆေဒဉာဏ် ဖြစ်လာခြင်းပင် ဖြစ်ပေသည်။

ထိုင်တယ်၊ ထိုင်တယ်ဟု ရှုမှတ်လိုက်သောအခါ ထိုင်နေတာကတခြား၊ မှတ်သိမှတ်သိလိုက်တာကတခြားဟု ကွဲပြားကာ သိလာကြပေသည်။ ထိုင်နေသည့် အမူအရာများက အာရုံကို မသိတတ်သောကြောင့် ရုပ်တရားဖြစ်သည်၊ မှတ်သိမှတ်သိလိုက်တာများက သိတတ်သောကြောင့် နာမ်တရားဖြစ်သည်ဟု

နာမ်တရားနှင့်ရုပ်တရားနှစ်ပါး ကွဲပြားကာ ပိုင်းခြား၍ သိခြင်းသည် နာမရူပပရိစ္ဆေဒဉာဏ် ဖြစ်လာခြင်းပင် ဖြစ်ပေသည်။

လျှောက်တယ်၊ လျှောက်တယ်ဟု ရှုမှတ်လိုက်သောအခါ လျှောက်နေတာကတခြား၊ မှတ်သိမှတ်သိလိုက်တာကတခြားဟု ကွဲပြားကာ သိလာကြပေသည်။ လျှောက်နေသည့် ကိုယ်အမူအရာများက အာရုံကို မသိတတ်သောကြောင့် ရုပ်တရားဖြစ်သည်၊ မှတ်သိမှတ်သိလိုက်တာများက သိတတ်သောကြောင့် နာမ်တရားဖြစ်သည်ဟု နာမ်တရားနှင့်ရုပ်တရားနှစ်ပါး ကွဲပြားကာ ပိုင်းခြား၍ သိခြင်းသည် နာမရူပပရိစ္ဆေဒဉာဏ် ဖြစ်လာခြင်းပင် ဖြစ်ပေသည်။

## စားရာ၌ နာမရူပပရိစ္ဆေဒဉာဏ်ဖြစ်လာပုံ

ခွမ်းခဲဖွယ်ဘောဇဉ်တို့ကို စားရာတွင် ဝါးတယ်၊ ဝါးတယ်ဟု ရှုမှတ်လိုက်သောအခါ ဝါးနေသော အမူအရာများကတခြား၊ မှတ်သိမှတ်သိလိုက်တာကတခြားဟု ကွဲပြားကာ သိလာကြပေသည်။ ဝါးနေသော အမူအရာများက အာရုံကို မသိတတ်သောကြောင့် ရုပ်တရားဖြစ်သည်၊ မှတ်သိမှတ်သိလိုက်တာများက သိတတ်သောကြောင့် နာမ်တရားဖြစ်သည်ဟု ရုပ်တရားနှင့်နာမ်

တရားနှစ်ပါး ကွဲပြားကာ ပိုင်းခြား၍ သိခြင်းသည် နာမရူပ ပရိစ္ဆေဒဉာဏ် ဖြစ်လာခြင်းပင် ဖြစ်ပေသည်။

## ကွေးဆန့်ရာ၌ နာမရူပပရိစ္ဆေဒဉာဏ်ဖြစ်လာပုံ

ကွေးတယ်၊ ကွေးတယ်၊ ဆန့်တယ်၊ ဆန့်တယ်ဟု လက်ကို ကွေးရာဆန့်ရာတို့၌ ရှုမှတ်ကြရာတွင် ကွေးတယ်၊ ကွေးတယ်ဟု ရှုမှတ်လိုက်သောအခါ ကွေးနေသည့် လက်အမူအရာများကတခြား။ မှတ်သိမှတ်သိလိုက်တာကတခြားဟု ကွဲပြားကာ သိလာကြပေသည်။ ကွေးနေသည့် လက်အမူအရာများက အာရုံကို မသိတတ်သောကြောင့် ရုပ်တရားဖြစ်သည်၊ မှတ်သိမှတ်သိလိုက်တာများက သိတတ်သောကြောင့် နာမ်တရားဖြစ်သည်ဟု နာမ်တရားနှင့်ရုပ်တရားနှစ်ပါး ကွဲပြားကာ ပိုင်းခြား၍ သိလာခြင်းသည် နာမရူပပရိစ္ဆေဒဉာဏ် ဖြစ်လာခြင်းပင် ဖြစ်ပေသည်။

ဆန့်တယ်၊ ဆန့်တယ်ဟု ရှုမှတ်လိုက်သောအခါ ဆန့်နေသည့် လက်အမူအရာများကတခြား။ မှတ်သိမှတ်သိလိုက်တာကတခြားဟု ကွဲပြားကာ သိလာကြပေသည်။ ဆန့်နေသည့် လက်အမူအရာများက အာရုံကို မသိတတ်သောကြောင့် ရုပ်တရားဖြစ်သည်၊ မှတ်သိမှတ်သိလိုက်တာများက သိတတ်သောကြောင့် နာမ်တရားဖြစ်သည်ဟု နာမ်တရားနှင့်ရုပ်တရားနှစ်ပါး ကွဲပြားကာ

ပိုင်းခြား၍ သိခြင်းသည် နာမရူပပရိစ္ဆေဒဉာဏ် ဖြစ်လာခြင်းပင် ဖြစ်ပေသည်။

အခြားတစ်ပါးသော ကိုယ်အမူအရာများကို ရှုမှတ်လိုက်သည့်အခါမှာလည်း ကိုယ်အမူအရာများကတခြား၊ မှတ်သိမှတ်သိလိုက်တာကတခြားဟု ကွဲပြားကာ သိလာကြပေသည်။ ကိုယ်အမူအရာများက အာရုံကို မသိတတ်သောကြောင့် ရုပ်တရားဖြစ်သည်၊ မှတ်သိမှတ်သိလိုက်တာများက သိတတ်သောကြောင့် နာမ်တရားဖြစ်သည်ဟု ရုပ်တရားနှင့်နာမ်တရားနှစ်ပါး ကွဲပြားကာ ပိုင်းခြား၍ သိခြင်းသည် နာမရူပပရိစ္ဆေဒဉာဏ် ဖြစ်လာခြင်းပင် ဖြစ်ပေသည်။

**နာမရူပပရိစ္ဆေဒဉာဏ၌ နာမ+ရူပ+ပရိစ္ဆေဒ+ဉာဏ** ဟု (၄)ပုဒ်ဖြစ်ပေသည်။ **နာမ** = နာမ်၊ **ရူပ** = ရုပ်၊ **ပရိစ္ဆေဒ** = ပိုင်းခြား၍၊ **ဉာဏ** = သိသည်။ **နာမရူပပရိစ္ဆေဒဉာဏ** = နာမ်နှင့်ရုပ်ကို ပိုင်းခြား၍ သိသော ဉာဏ်ဖြစ်ပေသည်။

**သဒ္ဓမ္မရံသီရိပ်သာဆရာတော်**

# ပစ္စယပရိဂ္ဂဟဉာဏ်ဖြစ်လာ
# သိကောင်းစရာ

ယခုခေတ်အခါသည် ဝိပဿနာတရား ထွန်းကားလာသောခေတ်အခါ ဖြစ်ပေသည်။ ထို့ကြောင့် ဗုဒ္ဓဘာသာဝင်ပုဂ္ဂိုလ်တို့သည် ဝိပဿနာတရားကို အချိန်ရသမျှ အားထုတ်လျက်ရှိကြပေသည်။ ဝိပဿနာတရားအားထုတ်၍ သမာဓိဉာဏ်များဖြစ်လာသောအခါ တရားသဘောများကို တွေ့သိလာကြပေသည်။ ဤကဲ့သို့ တွေ့သိလာကြသောအခါ မိမိတို့ တွေ့သိကြရသောတရားသဘောများသည် မှန်မမှန်ဟုလည်း သိလိုကြပေသည်။ မိမိတို့သည် မည်သည့်ဉာဏ်အဆင့်သို့ ရောက်ရှိနေကြသည်ကိုလည်း သိလိုကြပေသည်။

မိမိတို့ ရောက်ရှိနေကြသော ဉာဏ်အဆင့်နှင့် တရားသဘောအမှန်တို့ကို သိကြရသောယောဂီပုဂ္ဂိုလ်တို့သည် မိမိတို့အားထုတ်ဆဲတရားအပေါ်မှာ ယုံကြည်ချက်သဒ္ဓါတရားများ ပို၍

ထက်သန်လာကြသောကြောင့် ပို၍ကြိုးစားအားထုတ်ချင်သည့် စိတ်များ ဖြစ်လာတတ်ကြပေသည်။ ပို၍လည်း ကြိုးစားအားထုတ် နိုင်လာကြမည် ဖြစ်ပေသည်။ ဤကဲ့သို့ ဝိပဿနာတရားအား ထုတ်ချင်သော စိတ်ဓာတ်များ ထက်သန်ကာ ကြိုးစားအားထုတ် နိုင်ကြစေရန်အတွက် ရည်သန်၍ ဤ"ပစ္စယပရိဂ္ဂဟာဉာဏ် ဖြစ်လာ သိကောင်းစရာ" တရားဆောင်းပါးကို ရေးသားလိုက် ရပါသည်။

ကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီး ညွှန် ပြသောနည်းဖြင့် ဝိပဿနာတရား အားထုတ်ကြသောပုဂ္ဂိုလ်တို့ သည် ထိုင်မှတ်သောအခါ ဖောင်းတယ်၊ ပိန်တယ်၊ ထိုင်တယ်၊ ထိတယ်ဟု ရှုမှတ်ကြရပေသည်။ ယင်းကဲ့သို့ ရှုမှတ်ကြရာတွင် ရှုမှတ်ခါစ သမာဓိဉာဏ်များ မဖြစ်သေးမီမှာတော့ မည်ကဲ့သို့မျှ ထူးခြားစွာ မသိကြရသေးပေ။ ဆက်ကာဆက်ကာရှုမှတ်၍ သမာဓိဉာဏ်များ ဖြစ်ပေါ်လာသောအခါ ထူးခြားစွာ သိလာကြ ပေသည်။ ရှေးဦးစွာ နာမ်နှင့်ရုပ်ကို ပိုင်းခြား၍ သိလာကြပေသည်။ ထို့နောက် အကြောင်းနှင့်အကျိုးကို သိလာကြပေသည်။

ဖောင်းတယ်၊ ပိန်တယ်၊ ထိုင်တယ်၊ ထိတယ်ဟု ရှုမှတ် လိုက်သောအခါ ဖောင်းတာ၊ ပိန်တာ၊ ထိုင်တာ၊ ထိတာတို့က

တခြား။ မှတ်သိမှတ်သိလိုက်တာတို့ကတခြားဟု ကွဲပြားကာ သိလာကြပေသည်။ ဖောင်းတာ၊ ပိန်တာ၊ ထိုင်တာ၊ ထိတာတို့က အာရုံကို မသိတတ်သောကြောင့် ရုပ်တရားဖြစ်သည်၊ မှတ်သိမှတ်သိလိုက်တာတို့က သိတတ်သောကြောင့် နာမ်တရားဖြစ်သည်ဟု နာမ်တရားနှင့်ရုပ်တရား ကွဲပြားကာ ပိုင်းခြား၍ သိလာခြင်းသည် ရှေးဦးစွာ နာမရူပပရိစ္ဆေဒဉာဏ် ဖြစ်လာခြင်းပင် ဖြစ်ပေသည်။

## ထိုင်မှတ်ရာ၌ ပစ္စယပရိဂ္ဂဟာဉာဏ်ဖြစ်လာပုံ

ထို့နောက် ဆက်ကာဆက်ကာရှုမှတ်၍ သမာဓိဉာဏ်များ တစ်ဆင့် အားရှိထက်သန်လာသောအခါ ရှုမှတ်နေစဉ်မှာပင် ဖောင်းတာ၊ ပိန်တာ၊ ထိုင်တာ၊ ထိတာတို့က ရှေ့ကပေါ်ပေါ်ပေးနေ၍ မှတ်သိစိတ်များက နောက်ကလိုက်၍လိုက်၍ မှတ်သိနေရပေသည်။ ဖောင်းတာ၊ ပိန်တာ၊ ထိုင်တာ၊ ထိတာတို့က အကြောင်းတရားဖြစ်သည်၊ မှတ်သိစိတ်များက အကျိုးတရားဖြစ်သည်ဟု အကြောင်းတရားနှင့် အကျိုးတရားတို့ကို သိလာခြင်းသည် ပစ္စယပရိဂ္ဂဟဉာဏ် ဖြစ်လာခြင်းပင် ဖြစ်ပေသည်။

ဤပစ္စယပရိဂ္ဂဟဉာဏ်၌ ဖောင်းတာ၊ ပိန်တာတို့သည် အမျိုးမျိုးရွေ့ပြောင်း၍ ဖောင်းပိန်နေတတ်ကြပေသည်။ သားဘက်၊

ကျောဘက်သို့ရောက်၍ ဖောင်းနေ၊ ပိန်နေတတ်ကြပေသည်။ ရင်ဘတ်သို့ တက်ရောက်၍လည်း ဖောင်းနေ၊ ပိန်နေတတ်ကြပေသည်။ အချို့သောပုဂ္ဂိုလ်တို့မှာ ငယ်ထိပ်သို့တက်ရောက်၍ ဖောင်းတာ၊ ပိန်တာများ ဖြစ်နေတတ်ကြပေသည်။ ဖောင်းတာ၊ ပိန်တာတို့ ရွှေ့ပြောင်းတိုင်း၊ ရွှေ့ပြောင်းတိုင်း မှတ်သိစိတ်က ပြောင်းရွှေ့၊ ပြောင်းရွှေ့၍ ရှုမှတ်နေကြရသောကြောင့် ဖောင်းတာ၊ ပိန်တာတို့က အကြောင်းတရားဖြစ်သည်၊ မှတ်သိစိတ်များက အကျိုးတရားဖြစ်သည်ဟု သိလာခြင်းသည် ပစ္စယပရိဂ္ဂဟဉာဏ် ဖြစ်လာပုံတစ်မျိုး ဖြစ်ပေသည်။

နှာခေါင်းမှ ဝင်လေ၊ ထွက်လေ ထိသိမှုကို ရှုမှတ်ကြသည့် အာနာပါနဖြင့် ဝိပဿနာတရား အားထုတ်ကြသော ယောဂီပုဂ္ဂိုလ်တို့သည်လည်း ပစ္စယပရိဂ္ဂဟဉာဏ်ဖြစ်ပုံကို ဤသို့ သိကြရပေသည်။

ဝင်လေ၊ ထွက်လေတို့၏ ထိသိမှုများ ရှိနေ၍ ထိမှုများက ရှေ့ကပေါ်ပေါ်ပေးနေ၍ မှတ်သိစိတ်များက နောက်မှလိုက်၍ လိုက်၍ မှတ်သိမှတ်သိနေကြရပေသည်။ ဝင်လေ၊ ထွက်လေ ထိမှုတို့က အကြောင်းတရားဖြစ်သည်၊ မှတ်သိမှတ်သိစိတ်များက အကျိုးတရားဖြစ်သည်ဟု သိလာခြင်းသည် ပစ္စယပရိဂ္ဂဟဉာဏ် ဖြစ်လာခြင်းပင် ဖြစ်ပေသည်။

## ဣရိယာပုထ်ကြီး(၄)ပါး၌ ပစ္စယပရိဂ္ဂဟာဉာဏ်ဖြစ်လာပုံ

သွားတယ်၊ သွားတယ်၊ ရပ်တယ်၊ ရပ်တယ်၊ ထိုင်တယ်၊ ထိုင်တယ်၊ လျောင်းတယ်၊ လျောင်းတယ်ဟု ဣရိယာပုထ်ကြီး (၄)ပါး၌ ရှုမှတ်ရာတွင် သွားတယ်၊ သွားတယ်ဟု ရှုမှတ်လိုက်သောအခါ သွားနေသည့် ကိုယ်အမူအရာများက ရှေ့ကပေါ်ပေါ်ပေးနေ၍ မှတ်သိစိတ်များက နောက်မှလိုက်၍လိုက်၍ မှတ်သိနေကြရပေသည်။ သွားနေသည့် ကိုယ်အမူအရာများက အကြောင်းတရားဖြစ်သည်၊ မှတ်သိစိတ်များက အကျိုးတရားဖြစ်သည်ဟု အကြောင်းတရားနှင့် အကျိုးတရားတို့ကို သိလာခြင်းသည် ပစ္စယပရိဂ္ဂဟာဉာဏ် ဖြစ်လာခြင်းပင် ဖြစ်ပေသည်။

ရပ်တယ်၊ ရပ်တယ်ဟု ရှုမှတ်လိုက်သောအခါ ရပ်နေသည့် ကိုယ်အမူအရာများက ရှိနေ၊ ပေါ်ပေးနေ၍ မှတ်သိစိတ်များက မှတ်သိနေကြရပေသည်။ ရပ်သည့် ကိုယ်အမူအရာများက အကြောင်းတရားဖြစ်သည်၊ မှတ်သိစိတ်များက အကျိုးတရားဖြစ်သည်ဟု အကြောင်းတရားနှင့် အကျိုးတရားတို့ကို သိခြင်းသည် ပစ္စယပရိဂ္ဂဟာဉာဏ် ဖြစ်လာခြင်းပင် ဖြစ်ပေသည်။

ထိုင်တယ်၊ ထိုင်တယ်ဟု ရှုမှတ်လိုက်သောအခါ ထိုင်နေသည့် ကိုယ်အမူအရာများက ရှေ့ကပေါ်ပေါ်ပေးနေ၍ မှတ်သိ

စိတ်များက နောက်မှလိုက်၍လိုက်၍ ရှုမှတ်နေကြရပေသည်။ ထိုင်နေသည့် ကိုယ်အမူအရာများက အကြောင်းတရားဖြစ်သည်၊ မှတ်သိစိတ်များက အကျိုးတရားဖြစ်သည်ဟု အကြောင်းတရားနှင့် အကျိုးတရားတို့ကို သိလာခြင်းသည် ပစ္စယပရိဂ္ဂဟဉာဏ် ဖြစ်လာခြင်းပင် ဖြစ်ပေသည်။

## စားရာ၌ ပစ္စယပရိဂ္ဂဟဉာဏ်ဖြစ်လာပုံ

ဆွမ်းခဲဖွယ်ဘောဇဉ်တို့ကို စားရာတွင် ဝါးတယ်၊ ဝါးတယ်ဟု ရှုမှတ်လိုက်သောအခါ ဝါးနေသော အမူအရာများက ရှေ့က ပေါ်ပေါ်ပေးနေ၍ မှတ်သိစိတ်များက နောက်မှလိုက်၍လိုက်၍ ရှုမှတ်နေကြရပေသည်။ ဝါးနေသည့် အမူအရာများက အကြောင်းတရားဖြစ်သည်၊ မှတ်သိစိတ်များက အကျိုးတရားဖြစ်သည်ဟု အကြောင်းတရားနှင့် အကျိုးတရားတို့ကို သိခြင်းသည် ပစ္စယပရိဂ္ဂဟဉာဏ် ဖြစ်လာခြင်းပင် ဖြစ်ပေသည်။

## ကွေးဆန့်ရာ၌ ပစ္စယပရိဂ္ဂဟဉာဏ်ဖြစ်လာပုံ

ကွေးတယ်၊ ကွေးတယ်၊ ဆန့်တယ်၊ ဆန့်တယ်ဟု လက်ကို ကွေးဆန့်ရာတို့၌ ရှုမှတ်ကြရာတွင် ကွေးတယ်၊ ကွေးတယ်ဟု ရှုမှတ်လိုက်သောအခါ ကွေးနေသည့် လက်အမူအရာများက

ရှေ့ကပေါ်ပေါ်ပေးနေ၍ မှတ်သိစိတ်များက နောက်မှလိုက်၍လိုက်၍ မှတ်သိနေကြရပေသည်။ ကွေးသည့် လက်အမူအရာများက အကြောင်းတရားဖြစ်သည်၊ မှတ်သိစိတ်များက အကျိုးတရားဖြစ်သည်ဟု အကြောင်းတရားနှင့် အကျိုးတရားတို့ကို သိခြင်းသည် ပစ္စယပရိဂ္ဂဟဉာဏ် ဖြစ်လာခြင်းပင် ဖြစ်ပေသည်။

ဆန့်တယ်၊ ဆန့်တယ်ဟု ရှုမှတ်လိုက်သောအခါ ဆန့်နေသည့် လက်အမူအရာများက ရှေ့ကပေါ်ပေါ်ပေးနေ၍ မှတ်သိစိတ်များက နောက်မှလိုက်၍လိုက်၍ မှတ်သိနေကြရပေသည်။ ဆန့်သည့် လက်အမူအရာများက အကြောင်းတရားဖြစ်သည်၊ မှတ်သိစိတ်များက အကျိုးတရားဖြစ်သည်ဟု အကြောင်းတရားနှင့် အကျိုးတရားတို့ကို သိခြင်းသည် ပစ္စယပရိဂ္ဂဟဉာဏ် ဖြစ်လာခြင်းပင် ဖြစ်ပေသည်။

အခြားတစ်ပါးသော ကိုယ်အမူအရာများကို ရှုမှတ်လိုက်သောအခါမှာလည်း ကိုယ်အမူအရာများက ရှေ့ကပေါ်ပေါ်ပေးနေ၍ မှတ်သိစိတ်များက နောက်မှလိုက်၍လိုက်၍ ရှုမှတ်နေကြရပေသည်။ ကိုယ်အမူအရာများက အကြောင်းတရားဖြစ်ပေသည်၊ မှတ်သိစိတ်များက အကျိုးတရားဖြစ်ပေသည်ဟု အကြောင်းတရားနှင့်အကျိုးတရားတို့ကို သိခြင်းသည် ပစ္စယပရိဂ္ဂဟဉာဏ် ဖြစ်လာခြင်းပင် ဖြစ်ပေသည်။

ပစ္စယပရိဂ္ဂဟဉာဏာ၌ ပစ္စယ+ပရိဂ္ဂဟ+ဉာဏဟူ၍ (၃)ပုဒ်ဖြစ်ပေသည်။ ပစ္စယ = အကြောင်း။ ပရိဂ္ဂဟ = အကျိုးကို သိမ်းဆည်း၍၊ ဉာဏ = သိသည်။ ပစ္စယပရိဂ္ဂဟဉာဏ = အကြောင်းနှင့်အကျိုးကို သိမ်းဆည်း၍ သိသော ဉာဏ်ဖြစ်ပေသည်။

သဒ္ဓမ္မရံသီရိပ်သာဆရာတော်

## သမ္မသနုဉာဏ်ဖြစ်လာ သိကောင်းစရာ

ယခုခေတ်အခါသည် ဝိပဿနာတရား ထွန်းကားလာသောခေတ်အခါ ဖြစ်ပေသည်။ ထို့ကြောင့် ဗုဒ္ဓဘာသာဝင်ပုဂ္ဂိုလ်တို့သည် ဝိပဿနာတရားကို အချိန်ရသမျှ အားထုတ်လျက်ရှိကြပေသည်။ ဝိပဿနာတရား အားထုတ်ကြသောပုဂ္ဂိုလ်တို့သည် ဝိပဿနာဉာဏ်စဉ်အားလျော်စွာ တစ်ခါတစ်ခါ ရှုမှတ်၍ ကောင်းကြပေသည်။ တစ်ခါတစ်ခါ ရှုမှတ်၍ မကောင်းဘဲ ဖြစ်ကြရပေသည်။

ရှုမှတ်၍ ကောင်းသော ဝိပဿနာဉာဏ်စဉ်များသို့ ရောက်သွားသောအခါ ဝိပဿနာပီတိသုခချမ်းသာတို့၌ နှစ်သက်သာယာနေကြ၍ တရားတွေ ရှေ့သို့မတက်ဘဲ ဖြစ်နေတတ်ကြပေသည်။ တရားတွေ ကြာနေတတ်ကြပေသည်။ ရှုမှတ်၍ မကောင်းသော ဝိပဿနာဉာဏ်စဉ်များသို့ ရောက်သွားသောအခါ ကိုယ်ဆင်းရဲ၊ စိတ်ဆင်းရဲ ဖြစ်ကြရ၍ တရားအားမထုတ်ချင်တော့ဘဲ ဖြစ်သွားတတ်ကြပေသည်။

ဤကဲ့သို့ မဖြစ်ကြရအောင် ဝိပဿနာဉာဏ်စဉ်များ၏ ကောင်းသည့်သဘောနှင့် ဆိုးသည့်သဘောတို့ကို သိထားသင့်ကြပေသည်။ ကောင်းသည့်သဘော၊ ဆိုးသည့်သဘောများကို သိထားကြမှသာ အကောင်းနှင့်အဆိုး ဤနှစ်မျိုးတို့ကို ကျော်လွန်သွားရအောင် ရှုမှတ်နိုင်ကြမည် ဖြစ်ပေသည်။ ကျော်လွန်သွားရအောင် ရှုမှတ်နိုင်မှသာ မိမိတို့ အလိုရှိအပ်သည့် မဂ်ဖိုလ်နိဗ္ဗာန် တရားထူးတရားမြတ်များကို ရရှိသွားနိုင်ကြပေမည်။ ထို့ကြောင့် ဝိပဿနာဉာဏ်စဉ်အားဖြင့် ဒုက္ခဝေဒနာများ၍ ဆိုးသည့် "သမ္မသနဉာဏ်ဖြစ်လာ သိကောင်းစရာ" ဤတရားဆောင်းပါးကို ရေးသားဖော်ပြလိုက်ရပါသည်။ သမ္မသနဉာဏ်သည် ဉာဏ်စဉ်အားဖြင့် (၃)နံပါတ် ဖြစ်ပေသည်။

ဝိပဿနာတရားအားထုတ်၍ (၃)နံပါတ် သမ္မသနဉာဏ်သို့ ရောက်လာကြသော ယောဂီပုဂ္ဂိုလ်တို့သည် ဖောင်းတယ်၊ ပိန်တယ်၊ ထိုင်တယ်၊ ထိတယ် စသည်ဖြင့် ရှုမှတ်လိုက်သော အခါ မကြာမီအချိန်အတွင်းမှာပင် နာတာ၊ ကျင်တာ၊ အောင့်တာ၊ ကိုက်ခဲတာ၊ တင်းကျပ်တာ၊ မူးတာ၊ ယားတာစသော ကိုယ်ဆင်းရဲခြင်း ဒုက္ခများလည်း ဖြစ်လာတတ်ကြပေသည်။ စိတ်မကြည်မသာဖြစ်ခြင်း၊ စိတ်အလိုမကျခြင်းစသော စိတ်ဆင်းရဲခြင်း ဒုက္ခများလည်း ဖြစ်လာတတ်ကြပေသည်။ ဤကဲ့သို့ ကိုယ်ဆင်းရဲ

စိတ်ဆင်းရဲခြင်း ဒုက္ခများကိုအကြောင်းပြု၍ အနိစ္စ၊ ဒုက္ခ၊ အနတ္တ တို့ကို ရှုမှတ်နေဆဲမှာပင် သုံးသပ်၍ သိလာတတ်ကြပေသည်။

## အနိစ္စ၊ ဒုက္ခ၊ အနတ္တကို သုံးသပ်၍သိပုံ

ဤခန္ဓာကိုယ်ကြီးသည် နာကျင်ကိုက်ခဲခြင်းစသော ဆင်းရဲဒုက္ခဝေဒနာများဖြစ်ရာ၊ စဝေးရာ ခန္ဓာကိုယ်ကြီး ဖြစ်ပေ သည်ဟု သုံးသပ်ဆင်ခြင်၍ ဒုက္ခကို ရှေးဦးစွာ သိလာတတ်ကြ ပေသည်။ ထို့နောက်မှ ထိုဒုက္ခဝေဒနာတို့သည် ယခုနာလိုက်၊ ယခုကျင်လိုက်၊ ယခုအောင့်လိုက်၊ ယခုယားလိုက် စသည်ဖြင့် အမျိုးမျိုးပြောင်းလဲ၍ ဖြစ်နေခြင်း မမြဲခြင်း အနိစ္စကို သုံးသပ် ဆင်ခြင်၍ သိလာတတ်ကြပေသည်။ ချမ်းချမ်းသာသာနှင့် တရား တွေ မြန်မြန်တွေ့ချင်၍ ဝိပဿနာတရားအားထုတ်ပါသော်လည်း ကိုယ်ဖြစ်ချင်သည့်အတိုင်း မဖြစ်ရဘဲ ဒုက္ခဝေဒနာများနှင့်သာ တွေ့နေရသဖြင့် ကိုယ်အစိုးမရခြင်း အနတ္တကို သုံးသပ်ဆင်ခြင် ၍ သိလာတတ်ကြပေသည်။ ဤကဲ့သို့ အနိစ္စ၊ ဒုက္ခ၊ အနတ္တတို့ ကို သုံးသပ်ဆင်ခြင်၍ သိလာခြင်းသည် သမ္မသနဉာဏ် ဖြစ်လာ ခြင်းပင် ဖြစ်ပေသည်။

ဝိပဿနာတရားအားထုတ်ကြသော ယောဂီပုဂ္ဂိုလ်တို့ သည် ဤသမ္မသနဉာဏ်၌ ဖြစ်ပေါ်လာသော ဆင်းရဲဒုက္ခဝေဒနာ

များကို လွှမ်းမိုးအောင် ရှုမှတ်နိုင်မှသာ မိမိတို့ အလိုရှိအပ်သော မဂ်ဖိုလ်နိဗ္ဗာန် တရားထူးတရားမြတ်များကို ရရှိသွားနိုင်ကြမည် ဖြစ်ပေသည်။ ထို့ကြောင့် ဝိပဿနာတရားရှုမှတ်စဉ် မိမိတို့၏ ခန္ဓာကိုယ်၌ နာကျင်ကိုက်ခဲခြင်း စသည့် ပြင်းထန်သော ဒုက္ခ ဝေဒနာများ ဖြစ်ပေါ်လာသောအခါ ရှေးဦးစွာ သည်းခံမည်ဟု နှလုံးသွင်းကြရပေသည်။ သည်းခံမှ နိဗ္ဗာန်ရဆိုသည်မှာ ဝိပဿနာ တရားအားထုတ်ရာ၌ အသုံးအကျဆုံးပင် ဖြစ်ပေသည်။

ထို့နောက် ခန္ဓာကိုယ်ကိုလည်း အနည်းငယ်လျှော့၊ စိတ်ကိုလည်း အနည်းငယ်လျှော့၍ ထိုဒုက္ခဝေဒနာပေါ်၌ စိတ်ကို တည့်တည့်ချကြည့်ရပါသည်။ ဤဝေဒနာ နာနေသည်မှာ အသား ပေါ် အရေပေါ်လောက်ပင်နာသည်၊ အကြောထိအောင်နာသည်၊ အရိုးထိအောင်နာသည်၊ ရိုးတွင်းခြင်ဆီထိအောင်နာသည်ဟု နာ နေသည့် အတိုင်းအရှည်ပမာဏကို သိအောင် စိတ်ဖြင့် စူးစိုက် ကြည့်ရပါသည်။ ထို့နောက်မှာ နာတယ်၊ ကျင်တယ်၊ ကိုက်ခဲ တယ် စသည်ဖြင့် ပိုင်းခြားပိုင်းခြား၍ ရှုမှတ်ကြရပေသည်။

လေးငါးချက်ခန့် ဆင့်ကာဆင့်ကာ ပိုင်းခြား၍ ရှုမှတ် လိုက်သောအခါ နာကျင်ကိုက်ခဲမှုတို့သည် တစ်မျိုးပိုနာ၊ ပိုကျင်၊ ပိုကိုက်ခဲတာများကို တွေ့သိလာတတ်ကြပေသည်။ ပြန်၍ပြန်၍ လျော့လျော့သွားတာ၊ တခြားနေရာသို့ ရွေ့ရွေ့သွားတာများကို

တွေ့သိလာတတ်ကြပေသည်။ ဤကဲ့သို့ အလျော့အတိုးကို တွေ့သိလာခြင်းသည် ဝေဒနာ၏ သဘောကို သိလာခြင်းပင် ဖြစ်ပေသည်။

ထို့နောက် ဆက်ကာဆက်ကာရှုမှတ်၍ သမာဓိဉာဏ်များ တစ်ဆင့် အားရှိထက်သန်လာသောအခါ နာတယ်ဟု ရှုမှတ်လိုက်လျှင် နာကျင်ကိုက်ခဲမှုတို့သည် တစ်ချက်မှတ် တစ်ချက်ပိုနာ၊ တစ်ချက်မှတ် တစ်ချက်ပိုနာသည်များကိုလည်း တွေ့သိလာတတ်ကြပေသည်။ ပြန်၍ပြန်၍ လျော့လျော့သွားသည်များကိုလည်း တွေ့သိလာတတ်ကြပေသည်။ ဤကဲ့သို့ တစ်ချက်မှတ် တစ်ချက် အလျော့အတိုးတို့ကို သိလာခြင်းသည် ဝေဒနာ၏ သဘောကို ပို၍သိလာခြင်းပင် ဖြစ်ပေသည်။ သဘောကို သိပြီးသောအခါ ဖြစ်ပျက်ကို သိလာတတ်ကြပေသည်။

ဆက်ကာဆက်ကာရှုမှတ်၍ သမာဓိဉာဏ်များ တစ်ဆင့် အားရှိထက်သန်လာသောအခါ နာတယ်ဟု ရှုမှတ်လိုက်လျှင် နာနေသည့်သဘောများ ပေါ်ပြီးတာနှင့် အလျင်အမြန် ပျောက်ပျောက်သွားတာကို တွေ့သိလာတတ်ကြပေသည်။ ပေါ်တာက ဖြစ်၊ ပျောက်ပျောက်သွားတာကပျက်ပင် ဖြစ်ပေသည်။ ဖြစ်တာ၊ ပျက်တာများကို သိသွားသောအခါ နာတာက အဓိကမဟုတ်တော့ပေ။ ဖြစ်တာ၊ ပျက်တာကို သိနေရတာက အဓိကဖြစ်သွား

ပေသည်။ နာတာကို မှတ်သိစိတ်က လွှမ်းမိုးသွားပြီဟု ဆိုရပေသည်။

ဆက်ကာဆက်ကာရှုမှတ်၍ သမာဓိဉာဏ်များ တစ်ဆင့်အားရှိထက်သန်လာသောအခါ နာတယ်ဟု ရှုမှတ်လိုက်လျှင်ဖြစ်တာက မထင်ရှားတော့ပါဘဲ ပျက်ပျက်သွားတာကပင် ထင်ရှားလာတတ်ပေသည်။ သမာဓိဉာဏ်များ တစ်ဆင့် အားရှိထက်သန်လာပြန်သောအခါ နာတယ်ဟု ရှုမှတ်လိုက်လျှင် နာတာများကုန်ပျက်သွားတာကို တွေ့သိပြီးသည့်အပြင် ရှုမှတ်လိုက်သည့်မှတ်သိစိတ်ပါ ကုန်ပျက်သွားတာကို တွေ့သိလာတတ်ကြပေသည်။

နာတာနှင့်မှတ်သိစိတ်တို့ ကုန်ပျက်ကုန်ပျက်သွားသည်ကို တွေ့သိလာသောအခါ နာတာလည်း မမြဲခြင်း အနိစ္စ၊ မှတ်သိစိတ်လည်း မမြဲခြင်း အနိစ္စဟု သိလာကြပေသည်။ ဉာဏ်ရင့်လာသည်နှင့်အမျှ ကုန်ပျက်ကုန်ပျက်သွားသည်များက လျင်မြန်လှသဖြင့် နှိပ်စက်နေသကဲ့သို့ဖြစ်၍ ဆင်းရဲခြင်း ဒုက္ခဟု သိလာကြပေသည်။ ကုန်ပျက်နှိပ်စက်နေသည့် ဆင်းရဲခြင်း ဒုက္ခများကိုမည်ကဲ့သို့မျှ ကာကွယ်၍မရ၊ သူ့သဘောအတိုင်း သူကုန်ပျက်နှိပ်စက်နေသဖြင့် ကိုယ်အစိုးမရခြင်း အနတ္တဟု သိလာကြပေသည်။ အနိစ္စ၊ ဒုက္ခ၊ အနတ္တဉာဏ်အမြင်များ ပြည့်စုံသွားသော

အခါ ဉာဏ်စဉ်များ အဆင့်ဆင့်တက်၍ မဂ်ဖိုလ်နိဗ္ဗာန် တရားထူး တရားမြတ်များကို ရရှိသွားကြမည် ဖြစ်ပေသည်။

သဒ္ဓမ္မရံသီရိပ်သာဆရာတော်
၂၃-၅-၉၉

## ဥဒယဗ္ဗယဉာဏ်ဖြစ်လာ သိကောင်းစရာ

ယခုခေတ်အခါသည် ဝိပဿနာတရား ထွန်းကားလာသောခေတ်အခါ ဖြစ်ပေသည်။ ထို့ကြောင့် ဗုဒ္ဓဘာသာဝင်ပုဂ္ဂိုလ်တို့သည် ဝိပဿနာတရားကို အချိန်ရသမျှ အားထုတ်လျက်ရှိကြပေသည်။ ဝိပဿနာတရား အားထုတ်ကြသောပုဂ္ဂိုလ်တို့သည် ဝိပဿနာဉာဏ်စဉ်အားလျော်စွာ တစ်ခါတစ်ခါ ရှုမှတ်၍ ကောင်းကြပေသည်။ တစ်ခါတစ်ခါ ရှုမှတ်၍ မကောင်းဘဲ ဖြစ်ကြရပေသည်။

ရှုမှတ်၍ ကောင်းသော ဉာဏ်စဉ်သို့ ရောက်သွားသောအခါ ဝိပဿနာပီတိသုခချမ်းသာတို့၌ နှစ်သက်သာယာနေကြ၍ တရားတွေ ရှေ့သို့မတက်ဘဲ ဖြစ်နေတတ်ကြပေသည်။ တရားတွေ ကြာနေတတ်ကြပေသည်။ ရှုမှတ်၍ မကောင်းသော ဉာဏ်စဉ်များသို့ ရောက်သွားသောအခါ ကိုယ်ဆင်းရဲ၊ စိတ်ဆင်းရဲ ဖြစ်ကြရ၍ တရားအားမထုတ်ချင်တော့ဘဲ ဖြစ်သွားတတ်ကြပေသည်။

ဤကဲ့သို့ မဖြစ်ရလေအောင် ဝိပဿနာဉာဏ်စဉ်များ၏ ကောင်းသည့်သဘောနှင့် မကောင်းသည့်သဘောတို့ကို သိထားသင့်ကြပါသည်။ ကောင်းသည့်သဘောနှင့် မကောင်းသည့်သဘောတို့ကို သိထားကြမှသာ အကောင်းနှင့်အဆိုး နှစ်မျိုးတို့ကို ကျော်လွန်သွားရအောင် ရှုမှတ်နိုင်ကြမည် ဖြစ်ပေသည်။ ကျော်လွန်အောင် ရှုမှတ်နိုင်မှသာ မိမိတို့ အလိုရှိအပ်သော မဂ်ဖိုလ်နိဗ္ဗာန် တရားထူးတရားမြတ်တို့ကို ရရှိသွားနိုင်ကြမည် ဖြစ်ပေသည်။ ထို့ကြောင့် ဝိပဿနာဉာဏ်စဉ်အားလျော်စွာ ချမ်းသာသည့် သုခဝေဒနာများ၏ ကောင်းသည့် "ဥဒယဗ္ဗယဉာဏ်ဖြစ်လာ သိကောင်းစရာ" ဤတရားဆောင်းပါးကို ရေးသားဖော်ပြလိုက်ရပါသည်။ ဥဒယဗ္ဗယဉာဏ်သည် (၄)နံပါတ်ဉာဏ် ဖြစ်ပေသည်။

ဥဒယဗ္ဗယဉာဏ်ဟူသည် အဖြစ်နှင့်အပျက်ကို သိသောဉာဏ် ဖြစ်ပေသည်။ ဝိပဿနာတရားအားထုတ်၍ (၄)နံပါတ် ဥဒယဗ္ဗယဉာဏ်သို့ ရောက်လာကြသော ယောဂီပုဂ္ဂိုလ်တို့သည် ဖောင်းတယ်၊ ပိန်တယ်၊ ထိုင်တယ်၊ ထိတယ် စသည်ဖြင့် ထိုင်၍ ရှုမှတ်လိုက်သည်ရှိသော် သမာဓိဉာဏ်များ ဖြစ်လာသောအခါ ဥဒယဗ္ဗယဉာဏ် အနုပိုင်းမှာတော့ ဖြစ်တာ၊ ပျက်တာများကို မတွေ့သိကြရသေးပေ။ ဝိပဿနာပီတိသုခတို့ကြောင့်ဖြစ်သော မြင်စရာအာရုံအမျိုးမျိုးနှင့် ချမ်းသာခြင်းအမျိုးမျိုးတို့ကို တွေ့သိလာကြရပေသည်။

ဝိပဿနာတရားအားထုတ်၍ ဥဒယဗ္ဗယဉာဏ် အနုပိုင်းသို့ ရောက်လာကြသည့် အချို့သော ယောဂီပုဂ္ဂိုလ်တို့သည် ထိုင်၍ ရှုမှတ်လိုက်သောအခါ ကိုယ်ရောစိတ်ပါ ပေါ့ပါးလာကြပေသည်။ မျက်စိကို မှိတ်ထားပါသော်လည်း မီးမောင်းကြီးများ ထိုးလိုက်သကဲ့သို့ အလင်းရောင်ကြီးများကို မြင်တွေ့နေတတ်ကြပေသည်။ ယခင်က မတွေ့ခဲ့၊ မမြင်ခဲ့ဖူးသည့် ကြည်နူးဖွယ်ရာ ကျောင်း ဘုရား စေတီများ၊ သစ်ပင် တောအုပ်ကြီးများ၊ အလွန်သာယာဖွယ်ကောင်းသည့် မြစ်ချောင်း ရေအိုင်ကြီးများ၊ အလွန်ဆန်းကြယ်သည့် ဗိမာန် တန်ဆောင်းကြီးများ၊ လိုဏ်ဂူကြီးများ စသည်တို့ကို ပကတိသောမျက်စိဖြင့် မြင်ရသကဲ့သို့ တွေ့မြင်နေတတ်ကြပေသည်။

ဥဒယဗ္ဗယဉာဏ် အနုပိုင်းသို့ ရောက်လာကြသော ယောဂီပုဂ္ဂိုလ်တို့သည် ထိုင်၍ ရှုမှတ်လိုက်သည်ရှိသော် သမာဓိဉာဏ်များ ဖြစ်ပေါ်လာသောအခါ ကိုယ်ကလည်းပေါ့ပါး၊ စိတ်ကလည်းပေါ့ပါး၊ ကိုယ်ကလည်းနူးညံ့၊ စိတ်ကလည်းနူးညံ့၊ ကိုယ်ကလည်းဖြောင့်မတ်၊ စိတ်ကလည်းဖြောင့်မတ်၊ ကိုယ်ကလည်းခံ့ကျန်း၊ စိတ်ကလည်းခံ့ကျန်း။ အောက်အောက်ဉာဏ်များ၌ တစ်နာရီမှာ တစ်ခါ၊ နှစ်ခါ ပြင်၍ ထိုင်ခဲ့ရသောယောဂီပုဂ္ဂိုလ်တို့သည် ဥဒယဗ္ဗယဉာဏ်သို့ ရောက်လာသောအခါ တစ်ခါမျှ မပြင်

ရတော့ပါဘဲ တစ်နာရီမှာ ချမ်းသာစွာ ထိုင်နိုင်သွားကြပေသည်။ အောက်အောက်ဉာဏ်များ၌ တစ်နာရီမှာ တစ်ခါမျှ မပြင်ဘဲ ထိုင်နိုင်ကြသည့် ယောဂီပုဂ္ဂိုလ်များမှာတော့ နှစ်နာရီ၊ သုံးနာရီ စသည်ဖြင့် ချမ်းသာစွာ ဆက်၍ ထိုင်နိုင်သွားကြပေသည်။

ဥဒယဗ္ဗယဉာဏ် အနုပိုင်းသို့ ရောက်လာကြသော ယောဂီပုဂ္ဂိုလ်တို့သည် ထိုင်၍ ရှုမှတ်လိုက်သည်ရှိသော် သမာဓိဉာဏ်များ ဖြစ်လာသောအခါ ကိုယ်ကလည်းလေ့လာပြီး၊ စိတ်ကလည်းလေ့လာပြီးဖြစ်၍ မှတ်စရာအာရုံ ဖောင်းတာ၊ ပိန်တာတို့နှင့် မှတ်သိစိတ်တို့ အလိုလိုရှုမှတ်နေသကဲ့သို့ ဖြစ်နေတတ်ကြပေသည်။ လူ့ဘဝမှာ တစ်ခါမျှ မငြိမ်းအေးခဲ့ဖူးသည့် ကိုယ်၏ငြိမ်းအေးခြင်း၊ စိတ်၏ငြိမ်းအေးခြင်းတို့ဖြင့် ငြိမ်းအေးနေကြရပေသည်။ ဝိပဿနာပီတိသုခချမ်းသာတို့၌ ပျော်မွေ့နေရသည်မှာလည်း လူ့သာမန်မဆိုထားနှင့် နတ်သာမန်တို့ပင် မပျော်မွေ့နိုင်သော ပျော်မွေ့ခြင်းတို့ဖြင့် ပျော်မွေ့နေကြရပေသည်ဟု မြတ်စွာဘုရား ဟောကြားတော်မူသည့်အတိုင်း ချမ်းသာ၌ သာယာပျော်မွေ့နေကြရပေသည်။

ဤကဲ့သို့ ဝိပဿနာပီတိသုခချမ်းသာတို့၌ သာယာပျော်မွေ့နေခြင်းသည် သုခဝေဒနာ၌ သာယာတပ်မက်နေသည့် ရာဂ လောဘတဏှာ ကိန်းလာခြင်းပင် ဖြစ်ပေသည်။ ထိုသုခ

ဝေဒနာ၌ ကိန်းလာသော ရာဂ လောဘတဏှာကို မပယ်နိုင်ပါက တရားတွေ ရှေ့သို့ မတက်နိုင်ကြတော့ပေ။ တရားတွေ ရပ်သွားပြီ ဖြစ်ကြပေသည်။ ရှုမှတ်ကောင်းဆဲ၊ သာယာစွဲ၊ အထဲ ရပ်နေသည်ဟု ဆိုသည့်အတိုင်း တရားတွေ ရပ်သွားကြပြီ ဖြစ်ပေသည်။

ဤကဲ့သို့ မရပ်သွားရအောင် ထိုချမ်းသာသည့် သုခဝေဒနာကို ဒုက္ခဟု ထင်မြင်လာရအောင် ရှုမှတ်ကြရမည်ဟု မြတ်စွာဘုရား ဟောကြားတော်မူခဲ့သည့်အတိုင်း ထိုချမ်းသာသုခဝေဒနာကို ဒုက္ခလို့ထင်အောင် ပြန်၍ ရှုမှတ်ကြရပေသည်။

ဆောင်ပုဒ်။ ။ သုခကိန်းလာ၊ လောဘသာ၊ မှန်စွာပယ်ရမည်။
သုခပေါ်လျှင်၊ ဒုက္ခထင်၊ အမှန်ပင်ရှုရမည်။

## ဥဒယဗ္ဗယဉာဏ် ဖြစ်လာပုံ

ဥဒယဗ္ဗယဉာဏ် အရင့်ပိုင်းသို့ ရောက်လာကြသော ယောဂီပုဂ္ဂိုလ်တို့သည် ဖောင်းတယ်၊ ပိန်တယ် စသည်ဖြင့် ဆက်ကာဆက်ကာ ရှုမှတ်လိုက်သည်ရှိသော် သမာဓိဉာဏ်များ တစ်ဆင့် အားရှိထက်သန်လာသောအခါ ဖောင်းတယ်၊ ပိန်တယ် ဟု ရှုမှတ်လိုက်လျှင် ဖောင်းစနှင့်ဖောင်းဆုံး၊ ပိန်စနှင့်ပိန်ဆုံးတို့

အထူးထင်ရှားလာတတ်ကြပေသည်။ အခြားအာရုံများကို ရှုမှတ်လိုက်သည့်အခါမှာလည်း အစနှင့်အဆုံး အထူးထင်ရှားနေတတ်ကြပေသည်။ ဖောင်းစက ဖြစ်၊ ဖောင်းဆုံးက ပျက်၊ ပိန်စက ဖြစ်၊ ပိန်ဆုံးက ပျက်များကို တွေ့သိလာတတ်ကြပေသည်။ ဤကဲ့သို့ တွေ့သိလာခြင်းသည် ဉဒယဗ္ဗယဉာဏ် ဖြစ်လာခြင်းပင် ဖြစ်ပေသည်။

ဆက်ကာဆက်ကာရှုမှတ်၍ သမာဓိဉာဏ်များ တစ်ဆင့်အားရှိထက်သန်လာသောအခါ ဖောင်းတယ်ဟု ရှုမှတ်လိုက်လျှင် ဖောင်းသည့်အမူအရာများ အဆင့်ဆင့် အလျှင်အမြန်၊ အလျှင်အမြန် ဖြစ်ပျက်သွားကြတာ၊ ပိန်တယ်ဟု ရှုမှတ်လိုက်လျှင် ပိန်သည့်အမူအရာများ အဆင့်ဆင့် အလျှင်အမြန်၊ အလျှင်အမြန် ဖြစ်ပျက်သွားကြတာများကို တွေ့သိလာတတ်ကြပေသည်။ ဖြစ်တာပျက်တာများက မြန်လွန်းလှ၍ နှိပ်စက်နေသကဲ့သို့ဖြစ်သဖြင့် ဆင်းရဲခြင်း ဒုက္ခတစ်မျိုးဖြစ်သည်ဟု ထင်မြင်လာတတ်ကြပေသည်။

## သုခမှ ဒုက္ခသို့ ထင်လာပုံ

ဝိပဿနာတရားအားထုတ်၍ ဉဒယဗ္ဗယဉာဏ် အရင့်ပိုင်းသို့ ရောက်လာကြသော ယောဂီပုဂ္ဂိုလ်တို့သည် ဝိပဿနာ

ပီတိသုခတို့ကြောင့် ဖြစ်ပေါ်လာသော ကိုယ်ချမ်းသာ စိတ်ချမ်းသာတို့ကို ချမ်းသာတယ်၊ ချမ်းသာတယ်ဟု စူးစိုက်၍ ရှုမှတ်လိုက်သည်ရှိသော် ချမ်းသာသည့် သုခဝေဒနာများ ပေါ်ပြီးတာနှင့် ပျောက်ပျောက်သွားတာများကို တွေ့သိလာတတ်ကြပေသည်။ ပေါ်တာက ဖြစ်၊ ပျောက်ပျောက်သွားတာက ပျက်ပင် ဖြစ်ပေသည်။

ဥဒယဗ္ဗယဉာဏ် ရင့်လာသည်နှင့်အမျှ ချမ်းသာသည့် သုခဝေဒနာများ၏ ဖြစ်မှု၊ ပျက်မှုတို့သည် လျင်မြန်လာကြပေသည်။ ဖြစ်ပျက်သည်များက လျင်မြန်လှသောကြောင့် မီအောင်လိုက်၍ ရှုမှတ်ရသည်မှာလည်း ဆင်းရဲခြင်း ဒုက္ခတစ်မျိုးပါလား။ လျင်မြန်လှသည့် ဖြစ်ပျက်မှုများက နှိပ်စက်နေသကဲ့သို့ဖြစ်၍လည်း ဆင်းရဲခြင်း ဒုက္ခတစ်မျိုးပါလားဟု ထင်လာတတ်ကြပေသည်။

ဤကဲ့သို့ ချမ်းသာသည့် သုခလို့မထင်တော့ပါဘဲ ဆင်းရဲခြင်း ဒုက္ခလို့ထင်လာသောအခါ သုခဝေဒနာ၌ ကိန်းနေသည့် ရာဂ လောဘတဏှာကို ပယ်ခြင်းကိစ္စ ပြီးမြောက်သွားပေသည်။ တရားတွေ ရှေ့သို့ ထူးထူးခြားခြား တက်သွားနိုင်ကြပေသည်။ ဉာဏ်စဉ်များ အဆင့်ဆင့်တက်၍ မဂ်ဖိုလ်နိဗ္ဗာန် တရားထူးတရားမြတ်များကိုလည်း ရရှိသွားနိုင်ကြမည် ဖြစ်ပေသည်။

ဥဒယဗ္ဗယဉာဏာ၌ ဥဒယ+ဝယ+ဉာဏာဟူ၍ (၃)ပုဒ် ဖြစ်ပေသည်။ ဥဒယ = ဖြစ်၊ ဝယ = ပျက်၊ ဉာဏ = သိသည်။ ဥဒယဗ္ဗယဉာဏ = အဖြစ်နှင့်အပျက်ကို သိသော ဉာဏ်ဖြစ်သည်။ ဝယ၌ ဝ-ကို ဗ-ပြု၍ ဗ္ဗ(၂)လုံး ဆင့်ထားခြင်း ဖြစ်ပေသည်။

သဒ္ဓမ္မရံသီရိပ်သာဆရာတော်

၂၄-၅-၉၉

# ဘင်္ဂညာဏ်ဖြစ်လာ သိကောင်းစရာ

ယခုခေတ်အခါသည် ဝိပဿနာတရား ထွန်းကားလာသောခေတ်အခါ ဖြစ်ပေသည်။ ထို့ကြောင့် ဗုဒ္ဓဘာသာဝင်ပုဂ္ဂိုလ်တို့သည် ဝိပဿနာတရားကို အချိန်ရသမျှ အားထုတ်လျက်ရှိကြပေသည်။ ဝိပဿနာတရားအားထုတ်၍ သမာဓိဉာဏ်များဖြစ်လာသောအခါ ဉာဏ်စဉ်အားလျော်စွာ တရားသဘောများကို အမျိုးမျိုး တွေ့သိလာတတ်ကြပေသည်။ ဤကဲ့သို့ တွေ့သိလာသောအခါ မိမိတို့ တွေ့သိကြရသော တရားသဘောတို့သည် မှန်သည်၊ မမှန်သည်များကိုလည်း သိလိုကြပေသည်။ မိမိတို့သည် မည်သည့် ဉာဏ်စဉ်အဆင့်သို့ ရောက်နေကြသည်ကိုလည်း သိလိုကြပေသည်။

မိမိတို့ ရောက်ရှိနေကြသော ဉာဏ်စဉ်အဆင့်နှင့် တရားသဘောအမှန်တို့ကို သိကြရသောယောဂီပုဂ္ဂိုလ်တို့သည် မိမိတို့အားထုတ်ဆဲ တရားအပေါ်၌ ယုံကြည်ချက်သဒ္ဓါတရားများ ပို၍ဖြစ်လာတတ်ကြပေသည်။ ထို့ကြောင့် ပို၍ကြိုးစားအားထုတ်ချင်သောစိတ်များ ဖြစ်လာတတ်ကြပေသည်။ ပို၍လည်း ကြိုးစား

အားထုတ်နိုင်ကြမည် ဖြစ်ပေသည်။ ဤကဲ့သို့ ဝိပဿနာတရား အားထုတ်ချင်သော စိတ်ဓာတ်များ ထက်သန်ကာ ကြိုးစားအား ထုတ်နိုင်ကြစေရန်အတွက် ရည်သန်၍ ဤ"ဘင်္ဂဉာဏ်ဖြစ်လာ သီကောင်းစရာ" တရားဆောင်းပါးကို ရေးသားဖော်ပြလိုက်ရ ပါသည်။

ကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီး ညွှန် ပြသောနည်းဖြင့် ဝိပဿနာတရား ပွားများအားထုတ်ကြသော ပုဂ္ဂိုလ်တို့သည် ထိုင်မှတ်သည့်အခါ ဖောင်းတယ်၊ ပိန်တယ် စသည်ဖြင့် ရှုမှတ်ကြရပေသည်။ ယင်းကဲ့သို့ ရှုမှတ်ကြရာ၌ ဘင်္ဂ ဉာဏ်မဖြစ်လာမီ နာမရူပပရိစ္ဆေဒဉာဏ်၊ ပစ္စယပရိဂ္ဂဟဉာဏ်၊ သမ္မသနဉာဏ်၊ ဥဒယဗ္ဗယဉာဏ်ဟူသော ဉာဏ်(၄)ပါးတို့ အစဉ် အတိုင်း ဖြစ်လာကြပေသည်။

နာမရူပပရိစ္ဆေဒဉာဏ်သို့ ရောက်လာသောအခါ အာရုံ ကို မသိတတ်သည့် ဖောင်းတာ၊ ပိန်တာတို့ကတခြား၊ အာရုံကို သိတတ်သည့် မှတ်သိစိတ်တို့ကတခြားဟု နာမ်နှင့်ရုပ် ကွဲပြား ကာ ပိုင်းခြား၍ သိလာကြပေသည်။

ပစ္စယပရိဂ္ဂဟဉာဏ်သို့ ရောက်လာသောအခါ မှတ်စရာ အကြောင်းတရားဖြစ်သည့် ဖောင်းတာ၊ ပိန်တာတို့က ရှေ့က

ပေါ်ပေါ်ပေးနေ၍ အကျိုးဖြစ်သည့် မှတ်သိစိတ်များက နောက်က လိုက်၍လိုက်၍ မှတ်သိနေကြသည်ဟု အကြောင်းနှင့်အကျိုးကို သိလာကြပေသည်။

သမ္မသနဉာဏ်သို့ ရောက်လာသောအခါ ဖောင်းတာ၊ ပိန်တာတို့ကို ရှုမှတ်နေရင်းပင် ဒုက္ခဝေဒနာများ အထူးထင်ရှား လာတတ်ကြပေသည်။ ထိုဒုက္ခဝေဒနာများကို ရှုမှတ်ကြရသဖြင့် ဒုက္ခဝေဒနာများ၏ မမြဲခြင်း အနိစ္စ၊ ဆင်းရဲခြင်း ဒုက္ခ၊ အစိုးမရ ခြင်း အနတ္တတို့ကို သုံးသပ်၍ သိလာတတ်ကြပေသည်။

ဥဒယဗ္ဗယဉာဏ်သို့ ရောက်လာသောအခါ ဖောင်းစနှင့် ဖောင်းဆုံး၊ ပိန်စနှင့်ပိန်ဆုံးတို့ အထူးထင်ရှားလာကြပေသည်။ အခြားမှတ်စရာအာရုံများကို ရှုမှတ်လိုက်သည့်အခါမှာလည်း အစ နှင့်အဆုံး ထင်ရှားနေတတ်ကြပေသည်။ ဖောင်းစက ဖြစ်၊ ဖောင်းဆုံးက ပျက်၊ ပိန်စက ဖြစ်၊ ပိန်ဆုံးက ပျက်ဟု ဖြစ်ပျက် ကို သိလာကြပေသည်။

## ဘင်္ဂဉာဏ် ဖြစ်ပေါ်လာပုံ

ဘင်ဂ်ဉာဏ်သို့ ရောက်လာကြသော ယောဂီပုဂ္ဂိုလ်တို့ သည် ဖောင်းတယ်၊ ပိန်တယ်ဟု ရှုမှတ်လိုက်သောအခါ ဖောင်းစ၊

ပိန်စတို့က မထင်ရှားတော့ပါဘဲ ဖောင်းဆုံး၊ ပိန်ဆုံးတို့က ထင်ရှားလာကြပေသည်။ အခြားမှတ်စရာအာရုံများကို ရှုမှတ်လိုက်သည့်အခါမှာလည်း အစများ မထင်ရှားတော့ပါဘဲ အဆုံးများသာ ထင်ရှားနေတတ်ကြပေသည်။ ဖောင်းတယ်ဟု ရှုမှတ်လိုက်လျှင် ဖောင်းဆုံးမှာ ရိပ်ခနဲရိပ်ခနဲ ကုန်ပျက်သွားတာ၊ ပိန်တယ်ဟု ရှုမှတ်လိုက်လျှင် ပိန်ဆုံးမှာ ရိပ်ခနဲရိပ်ခနဲ ကုန်ပျက်သွားတာများကို တွေ့သိလာကြရပေသည်။ ဤကဲ့သို့ တွေ့သိလာခြင်းသည် ဘင်္ဂဉာဏ် ဖြစ်လာခြင်းပင် ဖြစ်ပေသည်။

## ဗလဝဝိပဿနာနှင့် တရုဏဝိပဿနာ ထူးခြားပုံ

ဘင်္ဂဉာဏ်သို့ ရောက်လာကြသော ယောဂီပုဂ္ဂိုလ်တို့သည် ဖောင်းတယ်၊ ပိန်တယ် စသည်ဖြင့် ရှုမှတ်လိုက်၍ သမာဓိဉာဏ်များဖြစ်လာသောအခါ ခေါင်းကိုယ်ခြေလက်ပုံသဏ္ဌာန်၊ ဝမ်းဗိုက်ပုံသဏ္ဌာန်ပညတ်များ မထင်ရှားတော့ပါဘဲ တောင့်တင်းလှုပ်ရှားခြင်းစသော ပရမတ်သဘောများသာ ထင်ရှားလာကြပေသည်။ ဘင်္ဂဉာဏ်သည် ဗလဝဝိပဿနာဖြစ်၍ ထိုဘင်္ဂဉာဏ်၌ ပုံသဏ္ဌာန်ပညတ်များ မထင်ရှားတော့ပါဘဲ ပရမတ်သဘောများသာ ထင်ရှားလာခြင်း ဖြစ်ပေသည်။ ဝိပဿနာဉာဏ်နှင့် ပညတ်တို့သည် ဖြောင့်ဖြောင့်ဆန့်ကျင်ဘက် ဖြစ်ကြပေသည်။ ဝိပဿနာဉာဏ်များ အားကောင်းလာလျှင် ပညတ်များ ပျောက်ကွယ်သွား

ကြပေသည်။ ဝိပဿနာဉာဏ် အားနည်းနေသေးလျှင် ပညတ်များ ထင်ရှားနေတတ်ကြပေသည်။

နာမရူပပရိစ္ဆေဒဉာဏ်၊ ပစ္စယပရိဂ္ဂဟဉာဏ်၊ သမ္မသန ဉာဏ်၊ ဥဒယဗ္ဗယဉာဏ်တို့သည် **တရုဏဝိပဿနာ = နုပျိုအား** နည်းသည့် ဝိပဿနာဉာဏ်များ ဖြစ်ကြပေသည်။ ထို့ကြောင့် ထိုဉာဏ်(၄)ပါးတို့၌ ခေါင်းကိုယ်ခြေလက်ပုံသဏ္ဌာန်၊ ဝမ်းဗိုက် ပုံသဏ္ဌာန်ပညတ်များ ထင်ရှားနေကြပေသည်။ ပရမတ်သဘော များ ငုပ်ပျောက်နေကြပေသည်။ ထို့ကြောင့် ပညတ်များကို ခွာ၍ ရှုမှတ်ကြရပေသည်။

ဘင်ဉာဏ်သည် အားရှိသော ဗလဝဝိပဿနာဉာဏ် ဖြစ်ပေသည်။ ထို့ကြောင့် ဘင်ဉာဏ်သို့ ရောက်လာသောအခါ ပညတ်ပုံသဏ္ဌာန်များ မထင်ရှားတော့ပါဘဲ ငုပ်ပျောက်သွားကြ ပေသည်။ ပရမတ်သဘောများသာ ထင်ရှားနေ၍ ပရမတ်သဘော များကိုသာ ရှုမှတ်နေကြရပေသည်။

**ဆောင်ပုဒ်။ ။** ပညတ်ထင်ရှား၊ ပရမတ်ကား၊
ငုပ်သွားလေသည်သာ။
ပရမတ်ထင်ရှား၊ ပညတ်ကား၊
ငုပ်သွားလေသည်သာ။

ဝိပဿနာတရားအားထုတ်၍ နယျံ့အားနည်းသည့် နာမ ရူပပရိစ္ဆေဒဉာဏ်၊ ပစ္စယပရိဂ္ဂဟဉာဏ်၊ သမ္မသနဉာဏ်၊ ဥဒ ယဗ္ဗယဉာဏ်များသို့ ရောက်နေကြသော ယောဂီပုဂ္ဂိုလ်တို့သည် မြင်ရသည့် အဆင်း၊ ကြားရသည့် အသံ၊ တွေ့ထိရသည့် အတွေ့ အာရုံတို့ကို မြင်ရ၊ ကြားရ၊ တွေ့ထိရသောအခါတို့၌ ပုံသဏ္ဌာန် ပညတ်များကိုသာ ရှေးဦးပထမ ထင်ရှားစွာ တွေ့သိကြရပေသည်။

အားရှိသော ဝိပဿနာဉာဏ်ဖြစ်သည့် ဘင်္ဂဉာဏ်သို့ ရောက်နေကြသော ယောဂီပုဂ္ဂိုလ်တို့သည် မြင်ရသည့် အဆင်း၊ ကြားရသည့် အသံ၊ တွေ့ထိရသည့် အတွေ့အာရုံတို့ကို မြင်ရ၊ ကြားရ၊ တွေ့ထိရသောအခါတို့၌ ရိပ်ခနဲရိပ်ခနဲ ကုန်ပျက်နေသည့် ပရမတ်သဘောများကိုသာ ရှေးဦးပထမ ထင်ရှားစွာ တွေ့သိကြ ရပေသည်။ အဖန်ဖန် စဉ်းစားပါမှ မည်သည့်အဆင်း၊ မည်သူ၏ အသံ၊ ကောင်းသည့်အတွေ့၊ မကောင်းသည့်အတွေ့ဟူသော ပညတ်များကို သိလာတတ်ကြပေသည်။ ဤကဲ့သို့ သိလာခြင်း သည် ဘင်္ဂဉာဏ် ဖြစ်လာခြင်းပင် ဖြစ်ပေသည်။

## ၆–ဒွါရ၌ ဘင်္ဂဉာဏ်ဖြစ်ပုံ

ဘင်္ဂဉာဏ်သို့ ရောက်နေကြသော ယောဂီပုဂ္ဂိုလ်တို့သည် မျက်စိ၊ နား၊ နှာ၊ လျှာ၊ ကိုယ်၊ စိတ်တည်းဟူသော ၆-ဒွါရ၊ ၆-ဌာနတို့၌ ဖြန့်၍ ရှုမှတ်လို့ ရလာကြပေသည်။

မျက်စိက မြင်တယ်၊ မြင်တယ်ဟု ရှုမှတ်လိုက်သော အခါ မြင်ရသည့် အဆင်းများ တရိပ်ရိပ် ပြောင်းလဲနေတာ၊ မြင်သိစိတ်များ ကုန်ပျက်ကုန်ပျက်သွားတာများကို တွေ့သိလာကြပေသည်။

နားက ကြားတယ်၊ ကြားတယ်ဟု ရှုမှတ်လိုက်သောအခါ ကြားရသည့် အသံများ တစ်လုံးပြီးတစ်လုံး ပျောက်ပျောက်သွားတာ၊ ကြားသိစိတ်များ ကုန်ပျက်ကုန်ပျက်သွားတာများကို တွေ့သိလာကြပေသည်။

နှာခေါင်းက နံတယ်၊ နံတယ်ဟု ရှုမှတ်လိုက်သောအခါ အနံ့များ တရိပ်ရိပ် ပျောက်ပျောက်သွားတာ၊ နံသိစိတ်များ ကုန်ပျက်ကုန်ပျက်သွားတာများကို တွေ့သိလာကြပေမည်။

လျှာက စားတယ်၊ စားတယ်ဟု ရှုမှတ်လိုက်သောအခါ အရသာများ တရိပ်ရိပ် ပျောက်ပျောက်သွားတာ၊ စားသိစိတ်များ ကုန်ပျက်ကုန်ပျက်သွားတာများကို တွေ့သိလာကြပေသည်။

ကိုယ်က ထိတယ်၊ ထိတယ်ဟု ရှုမှတ်လိုက်သောအခါ ထိမှုများ တရိပ်ရိပ် ပျောက်ပျောက်သွားတာ၊ ထိသိစိတ်များ ကုန်ပျက်ကုန်ပျက်သွားတာများကို တွေ့သိလာကြပေသည်။

စိတ်မနောက ကြံစည်တယ်၊ စိတ်ကူးတယ်ဟု ရှုမှတ်လိုက်သောအခါ ကြံသိစိတ်များ ကုန်ပျက်ကုန်ပျက်သွားတာများကို တွေ့သိလာကြပေသည်။ ဤကဲ့သို့ တွေ့သိလာခြင်းသည် ၆-ဒွါရ၌ ဘင်္ဂဉာဏ် ဖြစ်လာခြင်းပင် ဖြစ်ပေသည်။

ကုန်ပျက်ကုန်ပျက်သည်များက လျင်မြန်လှ၍ မမြဲခြင်း အနိစ္စကိုလည်း သိလာကြပေသည်။ နှိပ်စက်နေသကဲ့သို့ဖြစ်၍ ဆင်းရဲခြင်း ဒုက္ခကိုလည်း သိလာကြပေသည်။ ကုန်ပျက်နှိပ်စက်နေခြင်း ဆင်းရဲခြင်း ဒုက္ခတို့ကို မည်ကဲ့သို့မျှ ကာကွယ်၍ မရသဖြင့် ကိုယ်အစိုးမရခြင်း အနတ္တကိုလည်း သိလာကြပေသည်။ အနိစ္စ၊ ဒုက္ခ၊ အနတ္တဉာဏ်အမြင်များ ပြည့်စုံသွားသောအခါ ဉာဏ်စဉ်များ အဆင့်ဆင့်တက်၍ မိမိတို့ အလိုရှိအပ်သော မဂ်ဖိုလ်နိဗ္ဗာန် တရားထူးတရားမြတ်တို့ကို ရရှိသွားကြမည် ဖြစ်ပေသည်။

ပညာစရိုက် = ပညာဉာဏ်ထက်မြက်၊ ပညာဉာဏ်ပြင်းထန်၍ သောတာပန်ဖြစ်မည့်ပုဂ္ဂိုလ်များမှာ အထက်က ဖော်ပြခဲ့သည့် အတိုင်း အပျက်များကို ထင်ရှားစွာ တွေ့သိနိုင်ကြပေသည်။ သဒ္ဓါစရိုက် = ယုံကြည်ချက် သဒ္ဓါအားကောင်း၊ သဒ္ဓါပြင်းထန်း၍ သောတာပန်ဖြစ်မည့်ပုဂ္ဂိုလ်များမှာတော့ အချို့အချို့သော ရှုမှတ်ဖွယ်အာရုံတို့၌သာ အပျက်ကို ထင်ရှားစွာ တွေ့သိနိုင်ကြပေသည်။

အချို့အချို့သော ရှုမှတ်ဖွယ်အာရုံတို့၌ အပျက်ကို ထင်ရှားစွာ မတွေ့သိရဘဲလည်း ဖြစ်တတ်ကြပေသည်။

သဒ္ဓမ္မရံသီရိပ်သာဆရာတော်
၂၆-၅-၉၉

# ဘယာ၊ အာဒီနဝ၊ နိဗ္ဗိဒ၊ မုဉ္စိတုကမျတာ ဉာဏ်များဖြစ်လာ သိကောင်းစရာ

ယခုခေတ်အခါသည် ဝိပဿနာတရား ထွန်းကားလာသောခေတ်အခါ ဖြစ်ပေသည်။ ထို့ကြောင့် ဗုဒ္ဓဘာသာဝင်ပုဂ္ဂိုလ်တို့သည် ဝိပဿနာတရားကို အချိန်ရသမျှ အားထုတ်လျက်ရှိကြပေသည်။ ဝိပဿနာတရား အားထုတ်ကြသောပုဂ္ဂိုလ်တို့သည် ဝိပဿနာဉာဏ်စဉ်အားလျော်စွာ တစ်ခါတစ်ခါ ရှုမှတ်လို့ ကောင်းကြပေသည်။ တစ်ခါတစ်ခါ ရှုမှတ်လို့ မကောင်းဘဲ ဖြစ်ကြရပေသည်။

ရှုမှတ်လို့ ကောင်းသော ဉာဏ်စဉ်များသို့ ရောက်သွားသောအခါ ဝိပဿနာပီတိသုခချမ်းသာတို့မှာ နှစ်သက်သာယာနေကြ၍ တရားတွေ ရှေ့သို့မတက်ဘဲ ဖြစ်နေတတ်ကြပေသည်။ တရားတွေ ကြာနေတတ်ကြပေသည်။ ရှုမှတ်၍ မကောင်းသော ဉာဏ်စဉ်များသို့ ရောက်သွားသောအခါ ပျင်းရိငြီးငွေ့ခြင်း စသည်

များဖြစ်လာ၍ ဝိပဿနာတရား အားမထုတ်ချင်တော့ဘဲ ဖြစ်သွားတတ်ကြပေသည်။

ဤကဲ့သို့ မဖြစ်ရလေအောင် ဝိပဿနာဉာဏ်စဉ်များ၏ ကောင်းသည့်သဘောနှင့် ဆိုးသည့်သဘောတို့ကို သိထားသင့်ကြပေသည်။ ကောင်းသည့်၊ ဆိုးသည့်သဘောတို့ကို သိထားကြမှသာ အကောင်းနှင့်အဆိုး ဤနှစ်မျိုးကို ကျော်လွန်သွားရအောင် ရှုမှတ်နိုင်ကြမည် ဖြစ်ပေသည်။ ကျော်လွန်သွားရအောင် ရှုမှတ်နိုင်ကြမှသာ မိမိတို့ အလိုရှိအပ်သော မဂ်ဖိုလ်နိဗ္ဗာန် တရားထူးတရားမြတ်တို့ကို ရရှိသွားနိုင်ကြမည် ဖြစ်ပေသည်။ ထို့ကြောင့် ဝိပဿနာဉာဏ်စဉ်အားဖြင့် ဖြစ်လာတတ်သည့် ကြောက်ခြင်း၊ အပြစ်မြင်ခြင်း၊ ငြီးငွေ့ခြင်း၊ လွတ်မြောက်လိုခြင်းဟူသော "ဘယ၊ အာဒီနဝ၊ နိဗ္ဗိဒ၊ မုဉ္စိတုကမျတာဉာဏ်များဖြစ်လာ သိကောင်းစရာ" ဤတရားဆောင်းပါးကို ရေးသားဖော်ပြလိုက်ရပါသည်။

## ကြောက်ခြင်း ဘယဉာဏ်ဖြစ်လာပုံ

ဝိပဿနာတရားအားထုတ်ကြသော ယောဂီပုဂ္ဂိုလ်တို့သည် ဉာဏ်စဉ်အားဖြင့် (၅)နံပါတ် အပျက်ကိုမြင်သော ဘင်ဉာဏ်ဖြစ်ပြီးသောအခါ (၆)နံပါတ် ကြောက်ခြင်းကို သိမြင်သော

ဘယဉာဏ်သို့ ရောက်လာကြပေသည်။ ဘယဉာဏ်သို့ ရောက်လာသောအခါ ရှုမှတ်နေစဉ်မှာပင် ယောဂီများ၏ဉာဏ်၌ ကြောက်ဖွယ်ရာများ ထင်မြင်လာကြပေသည်။

ကြောက်ဖွယ်ရာများ ထင်မြင်လာပုံမှာ ရှုမှတ်လိုက်တိုင်း ရှုမှတ်လိုက်တိုင်းတို့၌ ရုပ်နာမ်ခန္ဓာတို့ အလျင်အမြန် အလျင်အမြန် ကုန်ပျက် ကုန်ပျက်သွားသည်များကို တွေ့မြင်ရသဖြင့် ရုပ်နာမ်ခန္ဓာတို့၏ ပျက်တိုင်းပျက်တိုင်း အချိန်မရွေး သေဆုံးသွားနိုင်ကြပေသည်။ အမှန်ကို မသိရှိသော ပျော်နေကြပေသည်။ အချိန်မရွေး တစ်ဘဝတာ ကုန်ဆုံးသွားနိုင်ပေ၏။ ကြောက်စရာချည်းပါတကား ထင်မြင်ကာ သိလာကြပေသည်။ ဤကဲ့သို့ သိလာခြင်းသည် ဘယဉာဏ် ဖြစ်လာခြင်းပင် ဖြစ်ပေသည်။

## အပြစ်မြင်ခြင်း အာဒီနဝဉာဏ်ဖြစ်လာပုံ

ဝိပဿနာတရားအားထုတ်ကြသော ယောဂီပုဂ္ဂိုလ်တို့သည် ဉာဏ်စဉ်အားဖြင့် (၆)နံပါတ် ဘယဉာဏ်ဖြစ်ပြီးသောအခါ (၇)နံပါတ် ရုပ်နာမ်ခန္ဓာတို့၌ အပြစ်မြင်သော အာဒီနဝဉာဏ်သို့ ရောက်ရှိလာကြပေသည်။ အာဒီနဝဉာဏ်သို့ ရောက်လာသောအခါ ရှုမှတ်နေစဉ်မှာပင် ယောဂီများ၏ဉာဏ်၌ ရုပ်နာမ်ခန္ဓာတို့၏ အပြစ်များကို မြင်လာကြပေသည်။

ရုပ်နာမ်ခန္ဓာတို့၏ အပြစ်ကို မြင်လာပုံမှာ ရုပ်နာမ်ခန္ဓာတို့သည် တစ်ပျက်တည်း ပျက်နေပေသည်။ ဘာတစ်ခုမျှ နိုင်မြဲတာမရှိ၍လည်း မကောင်း။ မကုန်ဆုံးနိုင်အောင် ဖြစ်ပြီးလျှင် ပျက်နေ၍လည်း မကောင်း။ ပေါ်လိုက်ပျောက်လိုက်နှင့် ရှုံမှုန်းစရာကြီးဖြစ်နေ၍လည်း မကောင်း။ ချမ်းသာအောင်၊ ကောင်းစားအောင် အမြဲပြုလုပ်အားထုတ်နေရ၍လည်း မကောင်း။ အိုရ နာရ သေရ စိုးရိမ်ပူဆွေး ငိုကြွေးရ၍လည်း မကောင်း စသည်ဖြင့် ရုပ်နာမ်ခန္ဓာတို့၏ မကောင်းသည့် အပြစ်များကို မြင်သိလာကြပေသည်။ ဤကဲ့သို့ မြင်သိလာခြင်းသည် အာဒီနဝဉာဏ် ဖြစ်လာခြင်းပင် ဖြစ်ပေသည်။

## ငြီးငွေ့ခြင်း နိဗ္ဗိဒဉာဏ်ဖြစ်လာပုံ

ဝိပဿနာတရားအားထုတ်ကြသော ယောဂီပုဂ္ဂိုလ်တို့သည် ဉာဏ်စဉ်အားဖြင့် (၇)နံပါတ် အာဒီနဝဉာဏ်ဖြစ်ပြီးသောအခါ (၈)နံပါတ် ရုပ်နာမ်ခန္ဓာတို့၌ ငြီးငွေ့သော နိဗ္ဗိဒဉာဏ်သို့ ရောက်ရှိလာကြပေသည်။ နိဗ္ဗိဒဉာဏ်သို့ ရောက်လာသောအခါ ရှုမှတ်နေစဉ်မှာပင် ယောဂီများ၏ဉာဏ်၌ ရုပ်နာမ်ခန္ဓာတို့၏ ငြီးငွေ့ဖွယ်များကို မြင်သိလာကြပေသည်။

ငြီးငွေ့ဖွယ်များကို မြင်သိလာပုံမှာ ရုပ်နာမ်တို့၏ ဖြစ်ပေါ်လာသော အစဉ်ကို မိအောင် ရှုမှတ်နိုင်လျက် ရှိပါသော်လည်း ယောဂီ၏ စိတ်သည် ရှုမှတ်မှုများ၌ ပျော်မွေ့ခြင်း မရှိတော့ပေ။ မှတ်ချက်တိုင်း မှတ်ချက်တိုင်း ရုပ်နာမ်တို့၏ ကုန်ပျက်မှုများကို ပိုင်းခြားပိုင်းခြား၍ သိနေပါလျက်၊ အမှတ်တွေ ကောင်းနေပါလျက် ယောဂီ၏ စိတ်သည် ရှုမှတ်မှုများ၌ ပျော်မွေ့ခြင်း မရှိတော့ပေ။ ပျင်းရိငြီးငွေ့ခြင်းများ ဖြစ်လာကြပေသည်။

ထိုအခါ၌ လူ့ဘုံလူ့ဘဝကို စဉ်းစားကြည့်လျှင်လည်း တစ်ပျက်တည်း ပျက်နေသည့် ရုပ်နာမ်ခန္ဓာတို့မှ မလွတ်ကင်းနိုင်ဟု သိလာသောကြောင့် ဘယ်လို လူမင်းအဖြစ်၊ သူဌေးအဖြစ်ကိုမျှ ပျော်မွေ့ဖွယ်မထင်၊ ငြီးငွေ့ဖွယ်ဟူ၍သာ ထင်လာကြပေသည်။ နတ်ဘုံ၊ ဗြဟ္မာဘုံတို့ကို စဉ်းစားကြည့်လျှင်လည်း ငြီးငွေ့ဖွယ်ဟူ၍သာ ထင်မြင်ကာ သိလာကြပေသည်။ ဤကဲ့သို့ ထင်မြင်ကာ သိလာခြင်းသည် နိဗ္ဗိဒဉာဏ် ဖြစ်လာခြင်းပင် ဖြစ်ပေသည်။

ဤပြဆိုခဲ့ပြီးသည့် ဘယဉာဏ်၊ အာဒီနဝဉာဏ်၊ နိဗ္ဗိဒဉာဏ်ဟူသော ဉာဏ်သုံးပါးတို့သည် သဘောသဘာဝအားဖြင့် ခပ်ဆင်ဆင်ပင် တူကြပေသည်။ ဆက်စပ်လျက်ပင်ရှိကြပေသည်။

အချို့သော ယောဂီပုဂ္ဂိုလ်တို့မှာ သုံးဉာဏ်လုံးပင် ထင်ရှားကြပေသည်။ အချို့သော ယောဂီပုဂ္ဂိုလ်တို့မှာ နှစ်ဉာဏ်လောက်ပင် ထင်ရှားကြပေသည်။ တစ်ဉာဏ်လောက်ပင် ထင်ရှားပါသော်လည်း သဘာဝချင်း တူကြသောကြောင့် သိခြင်းကိစ္စ ပြီးမြောက်နိုင်ပေသည်။

## လွတ်မြောက်လိုခြင်း မုဉ္စိတုကမျတာဉာဏ်ဖြစ်လာပုံ

ဝိပဿနာတရားအားထုတ်ကြသော ယောဂီပုဂ္ဂိုလ်တို့သည် (၈)နံပါတ် နိဗ္ဗိဒါဉာဏ်ဖြစ်ပြီးသောအခါ (၉)နံပါတ် လွတ်မြောက်လိုသည့် မုဉ္စိတုကမျတာဉာဏ်သို့ ရောက်ရှိလာကြပေသည်။ မုဉ္စိတုကမျတာဉာဏ်သို့ ရောက်လာသောအခါ ရုပ်နာမ်သင်္ခါရတို့ကို မလိုချင်၊ ရုပ်နာမ်သင်္ခါရတို့မှ လွတ်မြောက်လိုသောစိတ်များ၊ အသိဉာဏ်များ ဖြစ်လာတတ်ကြပေသည်။

လွတ်မြောက်လိုသောစိတ်များ၊ အသိဉာဏ်များ ဖြစ်ပေါ်လာပုံမှာ ဥပမာများကြောင့် ရှုမှတ်တိုင်း ရှုမှတ်တိုင်းသော စိတ်တို့သည် မှတ်သိရသော ရုပ်နာမ်သင်္ခါရတို့မှ အတင်းရုန်းကန် ဖွဲ့ထွက်နေသကဲ့သို့လည်း ထင်ရတတ်၏။ မြင်မှု၊ ကြားမှု၊ ထိမှု၊ ကြံစည်မှု၊ ထိုင်မှု၊ ထမှု၊ ကွေးမှု၊ ဆန့်မှု၊ ရှုမှတ်မှု စသည်တို့မရှိမှ ကောင်းမှာပဲ၊ ယင်းတို့ မရှိရာသို့ ရောက်ချင်ပါဘိတော့တယ်

စသည်ဖြင့် ရုပ်နာမ်သင်္ခါရတို့မှ လွတ်မြောက်လိုသည့်စိတ်များ၊ အသိဉာဏ်များ ဖြစ်လာတတ်ကြပေသည်။ ဤကဲ့သို့ အသိဉာဏ်များ ဖြစ်လာခြင်းသည် မုဉ္စိတုကမျတာဉာဏ် ဖြစ်လာခြင်းပင် ဖြစ်ပေသည်။

သဒ္ဓမ္မရံသီရိပ်သာဆရာတော်
၂၈-၅-၉၉

## ပဋိသင်္ခါဉာဏ်ဖြစ်လာ သိကောင်းစရာ

ယခုခေတ်အခါသည် ဝိပဿနာတရား ထွန်းကားလာသောခေတ်အခါ ဖြစ်ပေသည်။ ထို့ကြောင့် ဗုဒ္ဓဘာသာဝင်ပုဂ္ဂိုလ်တို့သည် ဝိပဿနာတရားကို အချိန်ရသမျှ အားထုတ်လျက်ရှိကြပေသည်။ ဝိပဿနာတရား အားထုတ်ကြသောပုဂ္ဂိုလ်တို့သည် ဝိပဿနာဉာဏ်စဉ်အားလျော်စွာ တစ်ခါတစ်ခါ ရှုမှတ်၍ ကောင်းကြပေသည်။ တစ်ခါတစ်ခါ ရှုမှတ်၍ မကောင်းဘဲ ဖြစ်ကြရပေသည်။

ရှုမှတ်၍ ကောင်းသော ဉာဏ်စဉ်များသို့ ရောက်သွားသောအခါ ဝိပဿနာပီတိသုခချမ်းသာတို့၌ နှစ်သက်သာယာနေကြ၍ တရားတွေ ရှေ့သို့မတက်ဘဲ ဖြစ်နေတတ်ကြပေသည်။ တရားတွေ ကြာနေတတ်ကြပေသည်။ ရှုမှတ်၍ မကောင်းသော

ဉာဏ်စဉ်များသို့ ရောက်သွားသောအခါ ကိုယ်ဆင်းရဲ စိတ်ဆင်းရဲ များ ဖြစ်ကြရ၍ တရားအားမထုတ်ချင်တော့ဘဲ ဖြစ်သွားတတ်ကြ ပေသည်။

ဤကဲ့သို့ မဖြစ်ရလေအောင် ဝိပဿနာဉာဏ်စဉ်များ၏ ကောင်းသည့်သဘောနှင့် ဆိုးသည့်သဘောများကို သိထားသင့် ကြပေသည်။ ကောင်းသည့်သဘော၊ ဆိုးသည့်သဘောများ သိ ထားကြမှသာ အကောင်းနှင့်အဆိုး ဤနှစ်မျိုးတို့ကို ကျော်လွန် သွားရအောင် ရှုမှတ်နိုင်ကြမည် ဖြစ်ပေသည်။ ကျော်လွန်သွားရ အောင် ရှုမှတ်နိုင်မှသာ မိမိတို့ အလိုရှိအပ်သော မဂ်ဖိုလ်နိဗ္ဗာန် တရားထူးတရားမြတ်များကို ရရှိသွားနိုင်ကြမည် ဖြစ်ပေသည်။ ထို့ကြောင့် ဝိပဿနာဉာဏ်စဉ်အားဖြင့် (၁၀)နံပါတ် ဆိုးသည့် **"ပဋိသင်္ခါဉာဏ်ဖြစ်လာ သိကောင်းစရာ"** ဤတရားဆောင်းပါး ကို ရေးသားဖော်ပြလိုက်ရပါသည်။

ဝိပဿနာတရားအားထုတ်ကြသော ယောဂီပုဂ္ဂိုလ်တို့ သည် ဉာဏ်စဉ်အားဖြင့် (၉)နံပါတ် သင်္ခါရတို့မှ လွတ်မြောက် လိုသော မုဉ္စိတုကမျတာဉာဏ် ဖြစ်ပြီးသောအခါ (၁၀)နံပါတ် ပဋိသင်္ခါဉာဏ်သို့ ရောက်ရှိလာကြပေသည်။ ပဋိသင်္ခါဉာဏ်သို့ ရောက်ရှိလာသောအခါ ရုပ်နာမ်သင်္ခါရတို့ကို မရှုမှတ်ဘဲနေ၍ ထိုရုပ်နာမ်သင်္ခါရတို့မှ မလွတ်မြောက်နိုင်ပေ။ ပြန်၍ရှုမှတ်မှသာ

လွတ်မြောက်နိုင်မည်ဟု သိကာ တစ်ဖန်ပြန်၍ ရှုမှတ်သောဉာဏ် ဖြစ်လာပေသည်။ ဤကဲ့သို့ တစ်ဖန်ပြန်၍ ရှုမှတ်သောအခါ၌ အချို့သော ယောဂီပုဂ္ဂိုလ်တို့မှာ မခံစားဖူးသော ဒုက္ခဝေဒနာများ ကို တွေ့သိခံစားလာကြရပေသည်။

ခန္ဓာကိုယ် ထိုထိုနေရာတို့၌ အနံ့အပြား ဒုက္ခဝေဒနာ များ ဖြစ်ပေါ်လာကြပေသည်။ (၃)နံပါတ် သမ္မသနဉာဏ်မှာကဲ့ သို့ ဒုက္ခဝေဒနာများ ထင်ရှားစွာ ဖြစ်ပေါ်လာတတ်ကြပေသည်။ သို့သော် သမ္မသနဉာဏ်၌ကဲ့သို့ ဒုက္ခဝေဒနာများ ကြာရှည်စွာ မတည်ကြပေ။ တစ်ချက်၊ နှစ်ချက်ခန့် ရှုမှတ်လိုက်လျှင် အလျင် အမြန် အလျင်အမြန် ပျောက်ပျောက်သွားကြပေသည်။ အခြား အခြားနေရာတို့၌ ဖြစ်ပေါ်လာကြပြန်သည်။

အောက်ဉဒယဗ္ဗယဉာဏ် စသည်တို့၌ ဒုက္ခဝေဒနာများ နည်းပါးခဲ့ပြီး ရှုမှတ်လို့ကောင်းခဲ့ပြီးလျှင် ယခုအခါ ဒုက္ခဝေဒနာများ ကို အများအပြား ပြန်၍ ခံစားနေရသောကြောင့် တရားတွေ ပြန် ကျသွားပြီဟု ယောဂီများ၏ စိတ်တွင် ထင်လာတတ်ကြပေသည်။ တရားဘောင်မှ ထွက်သွားချင်သည့် စိတ်များလည်း ဖြစ်လာတတ် ကြပေသည်။ ထွက်လည်း ထွက်သွားတတ်ကြပေသည်။ ဤပဋိ သင်္ခါဉာဏ်သို့ ရောက်လာကြသော ယောဂီများကို ကမ္မဋ္ဌာန်း

ဆရာများက အထူးပင် အားပေးစကား ပြောကြားပေးကြရပေသည်။ ဤဉာဏ်မှ ရှေ့ဉာဏ်သို့ ရောက်သွားသောအခါ တရားသဘော များကို တွေ့သိကြရတော့မည် စသည်ဖြင့် အားပေးစကားများ ပြောကြားပေးကြရပေသည်။

ဤပဋိသင်္ခါဉာဏ်သို့ ရောက်လာကြသော ယောဂီပုဂ္ဂိုလ် တို့သည် ထိုင်၍ ရှုမှတ်ရာတွင် အမှတ်တွေ ကောင်းနေပါလျက် နှင့်ပင် လက်ခြေများကို ဟိုရွှေ့ချင် ဒီရွှေ့ချင်စိတ်များ ဖြစ်လာ တတ်ကြပေသည်။ မျက်စိများလည်း ဖွင့်ကြည့်ချင်သည့်စိတ်များ ဖြစ်လာတတ်ကြပေသည်။ လက်ခြေများကို ရွှေ့လည်း ရွှေ့မိနေ တတ်ကြပေသည်။ ဂနာမငြိမ်ဘဲ ဖြစ်လာတတ်ကြပေသည်။ ထိုင်၍ရှုမှတ်နေရာမှာ အမှတ်တွေ ကောင်းနေပါလျက် ထ၍ စင်္ကြံလျှောက်ချင်သောစိတ်များ ဖြစ်လာပြီး ထ၍ စင်္ကြံလည်း လျှောက်၍နေတတ်ကြပေသည်။ စင်္ကြံလျှောက်နေရာမှ တစ်ဖန် ပြန်၍ ထိုင်ချင်သည့်စိတ်များ ဖြစ်လာပြီးလျှင် တစ်ဖန် ပြန်ထိုင်၍ ရှုမှတ်နေတတ်ကြပြန်သည်။ ဤကဲ့သို့ ဂနာမငြိမ်ဘဲ ဖြစ်နေတတ် ကြပေသည်။

ဤကဲ့သို့ လက်ခြေများကို ပြောင်းရွှေ့ခြင်း၊ ထိုင်မှတ် ရာမှ စင်္ကြံထ၍ လျှောက်ခြင်းများကို ပြုပြင်ချင်တိုင်း မပြုပြင့်ပေး

မှု၍ သည်းခံကာ ရှုမှတ်ကြရပေသည်။ ဣရိယာပုထ် တစ်ခုတည်းဖြင့် ကြာမြင့်စွာ ရှုမှတ်နိုင်ရအောင် သည်းခံကာ ကြိုးစားအားထုတ်ကြရပေသည်။ မလျှော့သော လုံ့လဝီရိယဖြင့် ရှုမှတ်နေလျှင် စိတ်တွေ တဖြည်းဖြည်း ကြည်လင်လာလိမ့်မည် ဖြစ်ပေသည်။ စိတ်တွေ တဖြည်းဖြည်း တည်ငြိမ်လာလိမ့်မည် ဖြစ်ပေသည်။ ပြုံပြင်လိုသောစိတ်များ လုံးဝပျောက်ကင်းသွားမည် ဖြစ်ပေသည်။

အချို့အချို့သော ယောဂီများမှာ ထိုဆင်းရဲခြင်း ဒုက္ခဝေဒနာများက သိပ်မထင်ရှားပါသော်လည်း စိတ်ဆင်းရဲခြင်း ဒုက္ခဝေဒနာများက ပို၍ ထင်ရှားနေတတ်ကြပေသည်။ စိတ်တွေ မသန့်ရှင်း မကြည်လင်ဘဲ ဖြစ်နေတတ်ကြပေသည်။ စိတ်တွေ ပြောင်းပြန်လည်း ဖြစ်လာတတ်ကြပေသည်။ အလွန်ကြည်ညိုလေးစားခဲ့သည့် ဘုရား၊ တရား၊ သံဃာ၊ ဆရာ၊ မိဘတို့ကို မကြည်ညိုတော့ပါဘဲ ဆန့်ကျင်ဘက်ပြုချင်သည့် စိတ်များလည်း ဖြစ်ပေါ်လာတတ်ကြပေသည်။ ဤမျှလောက် ညံ့ဖျင်းသည့်စိတ်များ လူ့ဘဝမှာ တစ်ခါမျှ မဖြစ်ဖူးခဲ့၍ အလွန်စိတ်ဆင်းရဲခြင်းများ ဖြစ်လာတတ်ကြပေသည်။

ဤကဲ့သို့ စိတ်ဆိုးစိတ်ညံ့များဖြစ်လာ၍ စိတ်ဆင်းရဲခြင်း ဒုက္ခများ ဖြစ်လာသောအခါ ကမ္မဋ္ဌာန်းဆရာများထံသို့ အမြန်

ချဉ်းကပ်၍ လျှောက်ထားကြရပေသည်။ ကမ္မဋ္ဌာန်းဆရာများက ဉာဏ်ပဋိသင်္ခါဉာဏ်၌ ဤကဲ့သို့ပင် စိတ်များ ဖြစ်လာတတ်ကြပေသည်။ ဖြစ်ပေါ်လာသည့် စိတ်ဆိုးစိတ်ညံ့များကို မကောင်းယုတ်ညံ့သည့်စိတ်များ ဖြစ်တယ် ဖြစ်တယ်လို့ မိအောင်၊ ထိမိအောင် ရှုမှတ်ကြရမည်ဟု ညွှန်ကြားပေးသည့်အတိုင်း ယင်းစိတ်ဆိုးစိတ်ညံ့များကို ရှုမှတ်လို့ ရသွားသောအခါ မကြာခဏပင် စိတ်ဆင်းရဲခြင်း ဒုက္ခများ ကင်းပျောက်သွားတတ်ကြပေသည်။

ဉာဏ်ပဋိသင်္ခါဉာဏ်၌ အခြားသော ယောဂီများလည်း ဤကဲ့သို့ ကိုယ်ဆင်းရဲ၊ စိတ်ဆင်းရဲဒုက္ခများ ဖြစ်လာတတ်ကြပေသည်။ အနည်းနှင့်အများ ကွာခြားမှုသာ ရှိကြပေသည်။ ယောဂီများအနေဖြင့် ဒုက္ခဝေဒနာများဖြင့် တွေ့နေကြရ၍ တရားမကောင်းဟု ဆိုကြရပါသော်လည်း ဝိပဿနာဉာဏ်စဉ်အရ ကမ္မဋ္ဌာန်းဆရာများအနေဖြင့် ဆိုးသည့်ဉာဏ်မှာ ဆိုးသည့်တရားသဘောများကို တွေ့သိကြရသောကြောင့် တရားကောင်းသည်ဟု ဆိုရပေသည်။

ထိုကိုယ်ဆင်းရဲ၊ စိတ်ဆင်းရဲ ဒုက္ခဝေဒနာများကို သည်းခံ၍ ရိုရိုသေသေ စူးစူးစိုက်စိုက် ရှုမှတ်ကြရမည် စသည်ဖြင့် ရှုမှတ်ပုံရှုမှတ်နည်းများကို ကမ္မဋ္ဌာန်းဆရာများက ညွှန်ပြပေးကြရ

ပေသည်။ ညွှန်ပြပေးသည့်အတိုင်း စူးစူးစိုက်စိုက် ရှုမှတ်လိုက် သောအခါ မကြာခဏ ထိုဒုက္ခဝေဒနာများမှ လွှန်မြောက်သွား ကြရပေသည်။ ချမ်းသာနှင့်ဆင်းရဲကို အညီအမျှ ရှုမှတ်နိုင်သော သင်္ခါရုပေက္ခာဉာဏ်သို့ ရောက်သွားကြရပေသည်။ ဤကဲ့သို့ ရုပ် နာမ်သင်္ခါရဒုက္ခတို့မှ လွတ်မြောက်အောင်၊ သင်္ခါရုပေက္ခာဉာဏ် သို့ ရောက်အောင် တစ်ဖန်ပြန်၍ရှုမှတ်သည့် ဝိပဿနာဉာဏ် ဖြစ်လာခြင်းသည် ပဋိသင်္ခါဉာဏ် ဖြစ်လာခြင်းပင် ဖြစ်ပေသည်။

ဤပဋိသင်္ခါဉာဏ်၌ အချို့သော ယောဂီပုဂ္ဂိုလ်များမှာ ထိုင်၍ ရှုမှတ်နေသောအခါ အာရုံနိမိတ်ဆိုးကြီးများ ထင်လာ၊ ပေါ်လာတတ်ကြပေသည်။ မျက်နှာပုံဆိုးကြီးများ၊ ခြေလက်အင်္ဂါ မပြည့်စုံသည့် ခန္ဓာကိုယ်ကြီးများ၊ အရင်က မတွေ့ဖူး၊ မမြင်ဖူးခဲ့ သည့် ပုံဆိုးကြီးများကို မြင်လာ၊ တွေ့လာတတ်ကြပေသည်။

တစ်ခါတစ်ရံမှာတော့ ကောင်းသည့် သာယာဖွယ်ဖြစ် သည့် အာရုံနိမိတ်များလည်း ထင်လာ၊ ပေါ်လာတတ်ကြပေသည်။ ရှေးအခါက တစ်ခါမျှ မမြင်ခဲ့ဖူးသည့် အလွန်ဆန်းကြယ်သည့် ဗိမာန်ကြီးများ၊ တိုက်တာအဆောက်အအုံကြီးများ၊ ဥယျာဉ်၊ ရေကန်ကြီးများ ထင်လာ၊ ပေါ်လာ၊ မြင်လာတတ်ကြပေသည်။ မရှုမှတ်ဘဲ သာယာနေလျှင် တရားတွေ မတိုးတက်နိုင်ဘဲ ဖြစ် နေတတ်ကြပေသည်။ မြင်တယ်၊ မြင်တယ်ဟု ရှုမှတ်လိုက်ပါက

အမြန်ပျောက်ကွယ်သွားတတ်ကြပေသည်။ မရှုမှတ်ဘဲ ဆိုးသည့် အာရုံများကို ထိတ်လန့်နေပါက၊ သာယာဖွယ် ဆန်းကြယ်သော အာရုံများကို သာယာနေပါက တရားတွေ အတက်နှေးသွားတတ် ကြပေသည်။ ထိုအာရုံများကို ရှုမှတ်နိုင်ပါက မကြာခဏ တရားတွေ တက်သွားကြမည် ဖြစ်ပေသည်။ အကောင်းနှင့်အဆိုးကို အညီအမျှ ရှုမှတ်နိုင်သည့် သင်္ခါရုပေက္ခာဉာဏ်သို့ ရောက်သွားကြမည် ဖြစ်ပေသည်။

သဒ္ဓမ္မရံသီရိပ်သာဆရာတော်

၂၉-၅-၉၉

# သင်္ခါရုပေက္ခာဉာဏ်ဖြစ်လာ
# သိကောင်းစရာ

ဝိပဿနာတရားအားထုတ်ကြသော ယောဂီပုဂ္ဂိုလ်တို့သည် (၁၀)နံပါတ် ပဋိသင်္ခါဉာဏ် ဖြစ်ပြီးသောအခါ (၁၁)နံပါတ် သင်္ခါရုပေက္ခာဉာဏ်သို့ ရောက်ရှိလာကြပေသည်။ သင်္ခါရုပေက္ခာဉာဏ်သို့ ရောက်လာကြသောပုဂ္ဂိုလ်တို့သည် လောကရေးရာဘက်က ကြောက်စရာအာရုံ၊ ဓမ္မရေးရာဘက်က ကြောက်စရာအာရုံများနှင့် တွေ့ကြုံရပါသော်လည်း ကြောက်လှသည်မဟုတ်ပေ၊ လျစ်လျူရှုနိုင်ကြ၍ ကြောက်လန့်ခြင်း ကင်းနေကြပေသည်။

## ကြောက်ခြင်းကင်းပုံ

လောကရေးရာဘက်က ကြောက်ခြင်းကင်းသည်ဟုဆိုရာ၌ သင်္ခါရုပေက္ခာဉာဏ်သို့ ရောက်ရှိနေကြသော ယောဂီပုဂ္ဂိုလ်တို့သည် အလွန်ကြောက်စရာကောင်းသည့် အဆင်းအာရုံများကို မြင်ရသောအခါ မြင်တယ်၊ မြင်တယ်ဟု ရှုမှတ်လိုက်သည်ရှိသော် မြင်ရသည့် အဆင်းရူပါရုံများ တရိပ်ရိပ် ပြောင်းလဲ၍ ကုန်ပျက်

နေသည်များကို တွေ့မြင်ရသောကြောင့် ကြောက်ခြင်းများ မဖြစ်တော့ဘဲ ကြောက်ခြင်းများ ကင်းသွားကြပေသည်။ အလွန်ကြောက်လန့်စရာကောင်းသည့် အသံများကို ကြားရသောအခါမှာလည်း ကြားတယ်၊ ကြားတယ်ဟု ရှုမှတ်လိုက်သည်ရှိသော် အသံများ မဆက်တော့ပါဘဲ တစ်ခုပြီးတစ်ခု ပျောက်ပျောက်သွားသည်ကို ကြားသိရသောကြောင့် ကြောက်ခြင်းများ ကင်းသွားကြပေသည်။

ယေဲရှယ်စဉ်ကတည်းက ကြောက်စရာအာရုံများကို မြင်ရ၍သော်လည်းကောင်း၊ ကြောက်စရာအသံများကို ကြားရ၍သော်လည်းကောင်း အလွန်ကြောက်တတ်သည့်ပုဂ္ဂိုလ်များသည်ပင် သင်္ခါရုပေက္ခာဉာဏ်သို့ ရောက်လာသောအခါ ကြောက်လန့်ခြင်းများ မရှိလှတော့ပေ။ ပျောက်ကင်းနေကြပေသည်။ ဝိပဿနာတရား အားမထုတ်မီက အိပ်ခန်းတစ်ခုထဲတွင် တစ်ယောက်တည်း မအိပ်ရဲခဲ့သောပုဂ္ဂိုလ်များသည်ပင် အိပ်ခန်းတစ်ခုထဲတွင် တစ်ယောက်တည်း အိပ်ရဲသွားကြပေသည်။ ကြောက်ခြင်းများ ကင်းပျောက်သွားသည်မှာ ထင်ရှားလှပေသည်။

ဓမ္မရေးရာဘက်က ကြောက်ခြင်းကင်းသည်ဟုဆိုရာ၌ ဝိပဿနာတရား အားထုတ်ကြသောယောဂီပုဂ္ဂိုလ်တို့သည် (၆) နံပါတ် ဘယဉာဏ်သို့ ရောက်လာသောအခါ ရှုမှတ်ချက်တိုင်း

ရှုမှတ်ချက်တိုင်းတို့၌ ရုပ်နာမ်ခန္ဓာတို့၌ အလျှင်အမြန် အလျှင်အမြန် ကုန်ပျက်ကုန်ပျက်သွားသည်များကို တွေ့မြင်ရသဖြင့် ရုပ်နာမ်ခန္ဓာတို့၏ ပျက်တိုင်းပျက်တိုင်း တစ်ဘဝတာအတွက် ကုန်ဆုံးသွားနိုင်ပေသည်ဟု ကြောက်လန့်ခြင်းများ ဖြစ်ခဲ့ကြပေသည်။ သင်္ခါရုပေက္ခာဉာဏ်သို့ ရောက်လာသောအခါ ဤကဲ့သို့ ကြောက်လန့်ခြင်းများ မရှိတော့ပေ။ ဓမ္မရေးရာဘက်က ကြောက်လန့်ခြင်းများ ကင်းသွားကြပေသည်။

သင်္ခါရုပေက္ခာဉာဏ်သို့ ရောက်ရှိလာကြသော ယောဂီပုဂ္ဂိုလ်တို့သည် လောကရေးရာဘက်က နှစ်သက်စရာအာရုံ၊ ဓမ္မရေးရာဘက်က နှစ်သက်စရာအာရုံများ၌ တွေ့ကြုံရပါသော်လည်း နှစ်သက်လှသည် မဟုတ်တော့ပေ။ လျစ်လျူရှုနိုင်ကြ၍ နှစ်သက်ခြင်းများ ကင်းသွားကြပေသည်။

## နှစ်သက်ခြင်းကင်းပုံ

လောကရေးရာဘက်က နှစ်သက်ခြင်းကင်းသည်ဟုဆိုရာ၌ သင်္ခါရုပေက္ခာဉာဏ်သို့ ရောက်ရှိနေကြသော ယောဂီပုဂ္ဂိုလ်တို့သည် အလွန်နှစ်သက်စရာကောင်းသည့် အဆင်းရူပါရုံများကို မြင်ရသောအခါ မြင်တယ်၊ မြင်တယ်ဟု ရှုမှတ်လိုက်သည်ရှိသော် မြင်ရသည့် အဆင်းရူပါရုံများ တရိပ်ရိပ် ပြောင်းလဲ၍ ကုန်ပျက်

နေသည်ကို မြင်ရသောကြောင့် နှစ်သက်ခြင်းများ ကင်းသွားကြပေသည်။ အလွန်သာယာဖွယ်ကောင်းသည့် တေးသီချင်းသံများကို ကြားရသည့်အခါမှာလည်း ကြားတယ်၊ ကြားတယ်ဟု ရှုမှတ်လိုက်သည်ရှိသော် အသံများ မဆက်တော့ပါဘဲ တစ်သံပြီး တစ်သံ ပျောက်ပျောက်သွားသည်များကို ကြားသိရသောကြောင့် သာယာနှစ်သက်ခြင်း မရှိတော့ပေ။ နှစ်သက်ခြင်းများ ကင်းသွားကြပေသည်။

အချို့အချို့သောပုဂ္ဂိုလ်တို့သည် ဘဝါဘဝက နှစ်သက်သာယာတတ်သော လောဘစာတ်ခံများ ပါလာ၍ သာယာဖွယ်ရုပ်ရှင်၊ ဇာတ်သဘင်တို့၌ အလွန်ပင် သာယာတတ်၍ မလွတ်တမ်း ကြည့်ရှုခဲ့ကြပေသည်။ သာယာဖွယ်ဖြစ်သည့် တေးသီချင်းသံများကိုလည်း အသံသွင်းထားပြီး မကြာခဏ နားထောင်လေ့ရှိကြပေသည်။ လှပတင့်တယ်သည့် အရောင်အဆင်းများကိုလည်း အလွန်ပင် သာယာတတ်ကြကုန်၏။ ထိုပုဂ္ဂိုလ်တို့သည် ဝိပဿနာတရားအားထုတ်၍ သင်္ခါရုပေက္ခာဉာဏ်သို့ ရောက်ရှိလာသောအခါ ထိုနှစ်သက်သာယာဖွယ် အမျိုးမျိုးတို့၌ နှစ်သက်သာယာခြင်းများ မရှိတော့ပါဘဲ ကင်းပျောက်သွားကြပေသည်။ ဝိပဿနာတရားအားထုတ်ခြင်း၌ ပို၍ မွေ့လျော်လာကြပေသည်။

ဓမ္မရေးရာဘက်က နှစ်သက်ခြင်းကင်းသည်ဟုဆိုရာ၌ ဝိပဿနာတရားအားထုတ်ကြသော ယောဂီပုဂ္ဂိုလ်တို့သည် (၄) နံပါတ် ဥဒယဗ္ဗယဉာဏ် အနုပိုင်းသို့ ရောက်ရှိလာသောအခါ လူသာမန်မဆိုထားနှင့် နတ်သာမန်တို့ပင် မခံစား၊ မတွေ့သိနိုင်သော ဝိပဿနာပီတိသုခတို့ကြောင့်ဖြစ်သည့် ချမ်းသာခြင်းအမျိုးမျိုးတို့၌ သာယာနှစ်သက်ကာ ပျော်မွေ့ခဲ့ကြပေသည်။ သင်္ခါရုပေက္ခာဉာဏ်သို့ ရောက်ရှိလာသောအခါ ထိုဝိပဿနာပီတိသုခတို့ကြောင့်ဖြစ်သည့် ချမ်းသာခြင်း အမျိုးမျိုးတို့၌ သာယာနှစ်သက်ခြင်းများ မရှိကြတော့ပေ၊ ပျောက်ကင်းသွားကြပေသည်။

## ချမ်းသာနှင့်ဆင်းရဲ အညီအမျှရှုပုံ

သင်္ခါရုပေက္ခာဉာဏ်သို့ ရောက်လာကြသော ယောဂီပုဂ္ဂိုလ်တို့သည် ချမ်းသာနှင့် ဆင်းရဲကိုလည်း အညီအမျှထား၍ ရှုနိုင်ကြပေသည်။ အလွန်ဝမ်းသာဖွယ်ရာ၊ တက်ကြွဖွယ်ရာ ဝတ္ထုအာရုံတို့ကို ရရှိခံစားကြရပါသော်လည်း အလွန်တက်ကြွခြင်း၊ အလွန်ဝမ်းမြောက်ခြင်းများ မရှိကြတော့ပေ။ အလွန်မနှစ်မြို့ဖွယ် ဝတ္ထုအာရုံ ဒုက္ခမျိုးစုံတို့နှင့် တွေ့ကြုံရပါသော်လည်း အလွန်နှလုံးမသာယာခြင်းများ၊ အလွန်စိတ်ဆင်းရဲခြင်းများ မဖြစ်လာကြတော့ပေ။ ဤကဲ့သို့ ချမ်းသာနှင့်ဆင်းရဲကို အညီအမျှထား၍ ရှုနိုင်ကြပေသည်။

## လောကဓံကို သည်းခံနိုင်ပုံ

သဒ္ဓါရပေက္ခာဉာဏ်သို့ ရောက်ရှိနေကြသော ယောဂီပုဂ္ဂိုလ်တို့သည် လောကဓံတရား(၈)ပါးနှင့် တွေ့ကြုံကြရပါသော်လည်း တုန်လှုပ်ခြင်းများ မရှိကြတော့၍ အသင့်အတင့် သည်းခံသွားနိုင်ကြပေသည်။

(၁) ကိုယ်အလိုရှိအပ်သည့် ပစ္စည်းဥစ္စာ လာဘ်လာဘများ အလိုရှိအပ်သည့်အတိုင်း ရရှိပါသော်လည်း အလွန်အလွန် တက်ကြွခြင်းများ မရှိလှပေ။ ပင်ကိုပကတိ နေမြဲအတိုင်းပင် နေနိုင်ကြပေသည်။

(၂) ပစ္စည်းဥစ္စာ လာဘ်လာဘများ မရှိမှု၍ အလွန်ရှားပါးနေပါသော်လည်း စိတ်နလုံးမသာမယာဖြစ်ခြင်း၊ စိတ်ဓာတ်ကျဆင်းခြင်း၊ စိုးရိမ်သောကဖြစ်ခြင်းများ အလွန်မဖြစ်တော့ပါဘဲ ပင်ကိုပကတိ နေမြဲအတိုင်း နေနိုင်ကြပေသည်။

(၃) မိမိတို့ကို ကူညီကြမည့် အခြံအရံပရိသတ်တွေ အလွန်များလာပါသော်လည်း အလွန်တက်ကြွခြင်းများ မရှိကြပေ၊ ပင်ကိုပကတိ နေမြဲအတိုင်းပင် နေနိုင်ကြပေသည်။

(၄) အခြံအရံပရိသတ်များ မရှိပါဘဲ အထီးကျန် တစ်ကိုယ်တည်းပင် နေထိုင်ကြရပါသော်လည်း စိတ်နှလုံးမသာမယာဖြစ်ခြင်း၊ စိတ်ဓာတ်ကျဆင်းခြင်းများ အလျှင်းမဖြစ်ပါဘဲ ပင်ကိုပကတိ နေမြဲတိုင်းပင် နေနိုင်ကြပေသည်။

(၅) အကြောင်းအမျိုးမျိုးတို့ကြောင့် ကဲ့ရဲ့ရှုတ်ချခြင်းများ ခံနေကြရပါသော်လည်း စိတ်နှလုံးမသာမယာဖြစ်ခြင်း၊ စိတ်ဓာတ်ကျဆင်းခြင်းများ အလျှင်းမဖြစ်ပါဘဲ ပင်ကိုပကတိ နေမြဲတိုင်းပင် နေနိုင်ကြပေသည်။

(၆) အကြောင်းအမျိုးမျိုးတို့ကြောင့် ဂုဏ်တင်၍ ချီးမွမ်းခြင်းများကို ခံယူကြရပါသော်လည်း အလွန်တက်ကြွခြင်း မရှိလှပေ။ ပင်ကိုပြကတေ့ နေမြဲတိုင်းပင် နေနိုင်ကြပေသည်။

(၇) ပစ္စည်း ဓန ဆွေမျိုး မိတ်သင်္ဂဟတို့နှင့် ပြည့်စုံ၍ ချမ်းသာအမျိုးမျိုးတို့နှင့် တွေ့ကြုံနေရပါသော်လည်း အလွန်တက်ကြွခြင်း မရှိမူ၍ ပင်ကိုပြကတေ့ နေမြဲတိုင်းပင် နေနိုင်ကြပေသည်။

(ဂ) အကြောင်းအမျိုးမျိုးတို့ကြောင့် ဆင်းရဲဒုက္ခများနှင့် တွေ့ကြုံနေရပါသော်လည်း အလွန်စိတ်နှလုံးမသာ မယာဖြစ်ခြင်း၊ စိတ်ဓာတ်ကျခြင်းများ မဖြစ်မူ၍ ပင်ကို ပြကတေ့ နေမြဲတိုင်းပင် နေနိုင်ကြပေသည်။

## ကြောင့်ကြမပြု မှတ်ရှုလွယ်ပုံ

သင်္ခါရုပေက္ခာဉာဏ်သို့ ရောက်ရှိလာကြသော ယောဂီ ပုဂ္ဂိုလ်တို့သည် အောက်အောက်ဉာဏ်များ၌ကဲ့သို့ အထူးကြောင့် ကြစိုက်၍ မရှုမှတ်ရတော့ပါဘဲ လွယ်လွယ်ကူကူနှင့် ရှုမှတ်ကြရ ပေသည်။ ဖောင်းတယ်၊ ပိန်တယ်ဟု ရှုမှတ်သောအခါ ဖောင်း တာ၊ ပိန်တာတို့ကလည်း အလိုလိုပေါ်နေသကဲ့သို့ မှတ်သိစိတ် များကလည်း အလိုလိုမှတ်သိနေသကဲ့သို့ ဖြစ်နေကြပေသည်။ ယောဂီများက ထိုင်၍ ကြည့်နေရသကဲ့သို့ လွယ်ကူစွာ ရှုမှတ် ကြရပေသည်။

ဤသင်္ခါရုပေက္ခာဉာဏ်၏ ညီမျှသော ဂုဏ်(၃)ပါးကို သင်္ခါရုပေက္ခာဉာဏ်သို့ ရောက်ရှိလာကြသော ယောဂီပုဂ္ဂိုလ်တို့ သည် မိမိတို့ကိုယ်တိုင် မိမိတို့၏ ဉာဏ်စဉ်ဖြစ်ပုံကို သိကြပြီးလျှင် ဆက်လက်၍ ကြိုးစားအားထုတ်နိုင်ကြစေရန်အတွက် ကျေးဇူး တော်ရှင် မဟာစည်ဆရာတော်ဘုရားကြီးက ဆောင်ပုဒ်များဖြင့် ဖွင့်ပြပေးတော်မူခဲ့ပါသည်။

ဆောင်ပုဒ်။ ။ ကြောက်နှစ်သက်ခြင်း။ ကင်းရှင်းပေသည်၊
ချမ်းသာဆင်းရဲ၊ ရှုမြဲတူညီ၊
ကြောင့်ကြမပြု၊ မှတ်ရှုလွယ်သည်၊
သင်္ခါရု၊ ညီမျှဂုဏ်သုံးမည်။

သဒ္ဓမ္မရံသီရိပ်သာဆရာတော်

# သင်္ခါရုပေက္ခာ၏ ထူးခြားဂုဏ်မှာ သိကောင်းစရာ

ဝိပဿနာတရားအားထုတ်၍ သင်္ခါရုပေက္ခာဉာဏ်သို့ ရောက်ရှိလာကြသော ယောဂီပုဂ္ဂိုလ်တို့သည် -

(၁) ကြောက်ခြင်းနှင့် နှစ်သက်ခြင်းများ ကင်းပျောက်သွားခြင်း။

(၂) ချမ်းသာခြင်းနှင့် ဆင်းရဲခြင်းများကို အညီအမျှထား၍ ရှုမှတ်နိုင်ခြင်း။

(၃) ကြောင့်ကြစိုက်၍ မရှုမှတ်ရတော့ပါဘဲ လွယ်ကူစွာ ရှုမှတ်နိုင်ခြင်းဟူသော ညီမျှသည့် ဂုဏ်(၃)ပါးကိုလည်း တွေ့သိကြရပေသည်။ ထိုမှတစ်ပါး ထူးခြားသော ဂုဏ်(၃)ပါးကိုလည်း တွေ့သိလာကြရပေသည်။

## ထူးခြားသော ဂုဏ်(၃)ပါးကို တွေ့သိလာပုံ

သင်္ခါရုပေက္ခာဉာဏ်သို့ ရောက်ရှိလာကြသော ယောဂီပုဂ္ဂိုလ်တို့သည် အာရုံဟူသမျှနှင့် မှတ်သိမှုဟူသမျှတို့ကို ငါကောင်လည်းမဟုတ်၊ ငါ၏ဥစ္စာလည်းမဟုတ်၊ သူကောင်လည်းမဟုတ်၊ သူတစ်ပါး၏ဥစ္စာလည်းမဟုတ်၊ သင်္ခါရသဘောမျှသာဖြစ်သည်ဟု သင်္ခါရသဘောများကိုသာ မှတ်သိနေကြရသည်ဟူ၍ သဘောကျကာ ရှင်းလင်းစွာ သိနေကြပေသည်။ ရှုမှတ်ရသည်မှာ အလွန်အရသာရှိသလိုပင် ကောင်းနေသည်ဟူ၍လည်း ထင်နေကြရပေသည်။ ရှုမှတ်နေရသည်မှာ အချိန်မည်မျှလောက်ပင် ကြာစေကာမူ ရှုမှတ်လို့ အားမရနိုင်ဘဲ ရှိနေတတ်ကြပေသည်။

## ကြာရှည်စွာတည်ပုံ

ဤသင်္ခါရုပေက္ခာဉာဏ်သို့ ရောက်ရှိလာကြသော ယောဂီပုဂ္ဂိုလ်တို့သည် ညောင်းခြင်း၊ ထုံကျဉ်ခြင်း၊ နာကျင်ခြင်း၊ ယားခြင်းစသော ဒုက္ခဝေဒနာအမျိုးမျိုးတို့ လုံးဝ ကင်းငြိမ်းလျက်ရှိကြပေသည်။ ထို့ကြောင့် ထိုင်ခြင်းစသော ဣရိယာပုထ် တစ်ခုတည်းဖြင့် ရှုမှတ်နေလျှင် (၂)နာရီ၊ (၃)နာရီ ကြာသော်လည်း ညောင်းညာပင်ပန်းမှုများ မရှိမူ၍ အချိန်ကုန်မှန်းမသိ ကုန်သွားတတ်ကြပေသည်။ တစ်ခဏလောက် ရှုမှတ်မည်ဟု ကြံစည်၍ ရှုမှတ်

ပါသော်လည်း (၂)နာရီ၊ (၃)နာရီခန့် အချိန်ကြာသွားတတ်ကြပေသည်။ ထိုသို့ပင် ကြာသွားပါသော်လည်း ခေါင်းကိုယ်ခြေလက်တို့ တည်နေပုံမှာ မူလရှုမှတ်ခါစကဲ့သို့ပင် နေရာမယွင်း တည်မြဲတိုင်းမှာပင် တည်နေကြပေသည်။ ဤကဲ့သို့ ကြာရှည်စွာလည်း တည်နိုင်ကြပေသည်။

ဝိပဿနာတရားအားထုတ်၍ သင်္ခါရုပေက္ခာဉာဏ်သို့ ရောက်ရှိလာကြသော ယောဂီပုဂ္ဂိုလ်တို့၏စိတ်သည် အလွန်ကြည်လင်လာတတ်ကြပေသည်။ အလွန်နူးညံ့ သိမ်မွေ့လာတတ်ကြပေသည်။ မှတ်သိမှုများသည်လည်း သူ့အရှိန်နှင့်သူ အလိုလိုပင် သိလျက်သိလျက် ဖြစ်နေကြပေသည်ဟု ထင်ကြရပေသည်။ အလွန်သိမ်မွေ့သော ရုပ်နာမ်အမှုအရာလေးများကိုသော်လည်း အထူးကြောင့်ကြမစိုက်ရတော့ပါဘဲ သိလျက်သိလျက်ပင် ရှိနေတတ်ကြပေသည်။ အနိစ္စ၊ ဒုက္ခ၊ အနတ္တလက္ခဏာများကိုလည်း အထူးမဆင်ခြင်ရပါဘဲ ထင်ရှားစွာ သိလျက်သိလျက် ရှိနေတတ်ကြပေသည်။

## ကြာလေ သာ၍သိမ်မွေ့ပုံ

ဝိပဿနာတရားအားထုတ်၍ သင်္ခါရုပေက္ခာဉာဏ်သို့ ရောက်ရှိလာကြသော ယောဂီပုဂ္ဂိုလ်တို့၏ အတွေ့အထိများနှင့်

မှတ်သိမှုများသည်လည်း အလွန့်အလွန် နူးညံ့သိမ်မွေ့လာကြပေသည်။ တစ်ကိုယ်လုံး၌ အလွန်သိမ်မွေ့သော တွေ့ထိမှုလေးများကို မှတ်သိစိတ်များက တစ်ခုပြီးတစ်ခု သိလျက်သိလျက်ပင် ရှိနေတတ်ကြပေသည်။ ခန္ဓာကိုယ်တွင် အနှံ့အပြား ထိုထိုနေရာ၌ ဝါဂွမ်းများဖြင့် တို့ထိပေးနေသကဲ့သို့ အလွန်သိမ်မွေ့သော အတွေ့အထိလေးများကိုလည်း မှတ်သိစိတ်များက သိလျက်သိလျက်ပင် ရှိနေကြပေသည်။ တစ်ရံတစ်ခါ ရုပ်ခန္ဓာကိုယ်တစ်ခုလုံး ပျောက်နေ၍ အသိစိတ်ကလေး တစ်ခုတည်းသာ ကျန်နေသဖြင့် ထိုအသိစိတ်၏ အဖြစ်အပျက်ကိုသာ သိတယ်၊ သိတယ်ဟု မှတ်သိနေကြရပေသည်။

တစ်ရံတစ်ခါ၌ ခန္ဓာကိုယ်တွင် အနှံ့အပြား ထိုထိုနေရာတို့၌ အလွန်သိမ်မွေ့သော ရေမှုန်ရေမွှားလေးများဖြင့် ဆွတ်ဖျန်းပေးနေသကဲ့သို့ ပီတိများ ဖြစ်သည်ကိုလည်း တွေ့သိကြရပေသည်။ လူ့ဘဝတွင် တစ်ခါမျှ မငြိမ်းအေးခဲ့ဖူးသည့် ငြိမ်းအေးမှုများကိုလည်း တွေ့သိကြရပေသည်။ မိုးကောင်းကင်ကဲ့သို့ အလွန်ကြည်လင်သော အလင်းများကိုလည်း တွေ့သိတတ်ကြပေသည်။ ဤကဲ့သို့ အလွန်သိမ်မွေ့သော အတွေ့ထူး အသိထူးများကြောင့် ဖြစ်သည့် လွန်ကဲသော ဝမ်းမြောက်မှုများ ရှေ့ကလို မဖြစ်တော့ပေ။ လျစ်လျူရှုနိုင်ကြပေသည်။ ဤကဲ့သို့ ကြာလေကြာလေ သိမ်မွေ့လာသည်များကိုလည်း ရှုမှတ်နိုင်ကြပေသည်။

## ရောဂါဆိုးများ ပျောက်ကင်းပုံ

ရောဂါဝေဒနာဆိုးများရှိနေကြသော ယောဂီပုဂ္ဂိုလ်တို့သည် ထိုင်၍ ရှုမှတ်နေသောအခါ ထိုရောဂါဝေဒနာဆိုးများ ရှိနေရာသို့ မှတ်သိစိတ်က ရောက်ရောက်သွားပြီးလျှင် ထိုရောဂါဝေဒနာဆိုးကြီးများကို ဆွဲထုတ်ပေးနေသကဲ့သို့၊ နှိပ်ပေးနေသကဲ့သို့၊ ခွာချပေးနေသကဲ့သို့ ဆေးကုသပေးနေသည်နှင့်တူစွာ တွေ့သိလာကြရပေသည်။ ယောဂီများကလည်း ဆွဲတယ်၊ ဆွဲတယ်၊ နှိပ်တယ်၊ နှိပ်တယ်၊ ခွာချတယ်၊ ခွာချတယ် စသည်ဖြင့် ရှုမှတ်ကြရပေသည်။ ဤကဲ့သို့ ရှုမှတ်ကြသဖြင့် သမားတော်ကြီးများ၊ ဆေးစွမ်းကောင်းများဖြင့် ကုသ၍ မပျောက်ကင်းခဲ့သော ရောဂါဝေဒနာဆိုးကြီးများ မကျွမ်းသေးလျှင် ပျောက်ကင်းသွားကြရပေသည်။

## အာရုံတခြား ပျံ့သွားကင်းပုံ

ဝိပဿနာတရားအားထုတ်၍ သင်္ခါရုပေက္ခာဉာဏ်သို့ ရောက်ရှိလာကြသော ယောဂီပုဂ္ဂိုလ်တို့သည် ဖောင်းတယ်၊ ပိန်တယ် စသည်ဖြင့် ရှုမှတ်နေသော မှတ်သိစိတ်သည် တခြားတစ်ပါးသော အာရုံများသို့ ထွက်သွားခြင်း မရှိတော့ပေ။ ရှုမှတ်မြဲ ဖောင်းပိန်စသော အာရုံ၌သာ ကပ်၍ကပ်၍ တည်လျက်ရှိနေပေသည်။ အောက်အောက်ဉာဏ်များ၌ အာရုံတစ်ပါးသို့ မှတ်သိစိတ်

မရောက်သွားရအောင် အထူးကြောင့်ကြစိုက်၍ ရှုမှတ်ခဲ့ကြရပေသည်။ ဤသင်္ခါရုပေက္ခာဉာဏ်သို့ ရောက်လာသောအခါ မှတ်စရာအာရုံမှ တခြားတစ်ပါးသောအာရုံသို့ ရောက်သွားခြင်း၊ ပျံ့လွင့်သွားခြင်း မရှိတော့ပေ။ ဖောင်းပိန်စသော ရှုမှတ်မှုများ အာရုံ၌သာ ကပ်လျက်ကပ်လျက် တည်နေပေသည်။

ဤကဲ့သို့ ဖောင်းပိန်စသော ရှုမှတ်အပ်သည့် အာရုံများ၌ မှတ်သိစိတ် ကပ်လျက်ကပ်လျက် တည်နေသောကြောင့် အခြားအာရုံများသို့ ပြောင်းရွှေ့ကာ ဖြန့်၍ ရှုမှတ်ကြည့်ပါသော်လည်း ရှုမှတ်မြဲ ဖောင်းပိန်စသော အာရုံများ၌သာ ပြန်၍ပြန်၍ ရှုမှတ်လျက်ရှိနေတတ်ကြပေသည်။ အခြား အလွန်နှစ်သက်စရာ၊ အလွန်ကြောက်လန့်စရာ အာရုံများသို့ ဖြန့်၍ ရှုကြည့်ကြပါသော်လည်း ထိုအလွန်နှစ်သက်ဖွယ်၊ ကြောက်လန့်ဖွယ် အာရုံများမှာ ကြာရှည်စွာ မတည်ပါဘဲ ချက်ချင်းပင် ဖောင်းပိန်စသော ရှုမှတ်မြဲ အာရုံသို့သာ ပြန်၍ ရောက်လာကြပြီးလျှင် ရှုမှတ်လျက် ရှုမှတ်လျက်သာ ဖြစ်နေတတ်ကြပေသည်။

ဤကဲ့သို့ သင်္ခါရုပေက္ခာဉာဏ်သို့ ရောက်ရှိနေကြသော ယောဂီပုဂ္ဂိုလ်တို့သည် -

(၁) ဣရိယာပုထ်တစ်ခုတည်း၌ (၂)နာရီ (၃)နာရီ တစ်ဆက်တည်း ကြာရှည်စွာတည်လျက် ရှုမှတ်နိုင်ခြင်း။

(၂) ရှုမှတ်ဖွယ်အာရုံများနှင့် မှတ်သိစိတ်များ ကြာလေကြာလေ သိမ်မွေ့လာခြင်း။
(၃) ရှုမှတ်နေသည့် အာရုံမှ အခြားတစ်ပါးသို့ ပျံ့သွားမှု မရှိခြင်းဟူသော ထူးခြားသော ဂုဏ်(၃)ပါးကိုလည်း သိကြရပေသည်။

ဤသင်္ခါရုပေက္ခာဉာဏ်၏ ထူးခြားသော ဂုဏ်(၃)ပါးကို သင်္ခါရုပေက္ခာဉာဏ်သို့ ရောက်ရှိလာကြသော ယောဂီပုဂ္ဂိုလ်တို့သည် မိမိတို့ကိုယ်တိုင် မိမိတို့၏ ဉာဏ်စဉ်ဖြစ်ပုံကို သိကြပြီးလျှင် ဆက်လက်၍ ကြိုးစား၍ အားထုတ်နိုင်ကြစေရန်အတွက် ကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီးက ဆောင်ပုဒ်များဖြင့် ဖွင့်ပြပေးတော်မူခဲ့ပါသည်။

ဆောင်ပုဒ်။ ။ ကြာရှည်စွာလည်း၊ တည်မြဲသူတည်၊
ကြာလေသော၍၊ သိမ်မွေ့လေသည်၊
အာရုံတခြား၊ ပျံ့သွားကင်းသည်၊
သင်္ခါရ၊ ထူးမှုဂုဏ်သုံးမည်။

သဒ္ဓမ္မရံသီရိပ်သာဆရာတော်
၃-၆-၉၉

# မဂ်ဉာဏ်၊ ဖိုလ်ဉာဏ်၊ ပစ္စဝေက္ခဏာဉာဏ်များ ဖြစ်လာ သိကောင်းစရာ

ဝိပဿနာတရားအားထုတ်ကြသော ယောဂီပုဂ္ဂိုလ်တို့သည် သင်္ခါရုပေက္ခာဉာဏ်ဖြစ်ပြီးသောအခါ အနုလောမဉာဏ်၊ ဂေါတြဘူဉာဏ်၊ မဂ်ဉာဏ်၊ ဖိုလ်ဉာဏ်၊ ပစ္စဝေက္ခဏာဉာဏ်များ ဖြစ်လာကြပေသည်။ သင်္ခါရုပေက္ခာဉာဏ်၌ ညီမျှသော ဂုဏ်(၃)ပါးနှင့် ထူးခြားသော ဂုဏ်(၃)ပါးတို့ကို တွေ့သိကြပြီးသောအခါ အဆင့်ဆင့် အနုလောမဉာဏ်၊ ဂေါတြဘူဉာဏ်၊ မဂ်ဉာဏ်၊ ဖိုလ်ဉာဏ်၊ ပစ္စဝေက္ခဏာဉာဏ်တို့ ဖြစ်လာကြပေသည်။

သင်္ခါရုပေက္ခာဉာဏ်၌ ညီမျှသော ဂုဏ်(၃)ပါးကို တွေ့သိရပုံမှာ ဝိပဿနာတရားအားထုတ်ကြသော ယောဂီပုဂ္ဂိုလ်တို့သည် သင်္ခါရုပေက္ခာဉာဏ်သို့ ရောက်လာသောအခါ ရှေးဦးစွာ သင်္ခါရုပေက္ခာဉာဏ်၏ ညီမျှသော ဂုဏ်(၃)ပါးကို တွေ့သိကြရပေသည်။

(၁) ဝိပဿနာတရား အားမထုတ်မီကထက် လောက နှင့်ဓမ္မ (၂)ဌာနလုံးတို့မှာ ကြောက်လန့်ခြင်းနှင့် နှစ်သက်သာယာခြင်းတို့မှ ကင်းရှင်းသွားကြပေသည်၊ နည်းပါးသွားကြပေသည်။

(၂) ဝိပဿနာတရား အားမထုတ်မီကထက် လောက နှင့်ဓမ္မ (၂)ဌာနလုံးမှာပင် ချမ်းသာခြင်းနှင့် ဆင်းရဲခြင်းတို့ကို အညီအမျှထား၍ ရှုနိုင်ကြပေသည်။

(၃) အောက်အောက်ဉာဏ်များလောက် ကြောင့်ကြစိုက်၍ မရှုမှတ်ရပါဘဲ လွယ်ကူစွာ ရှုမှတ်နိုင်ကြပေသည်။ ဤကဲ့သို့ သင်္ခါရုပေက္ခာဉာဏ်၏ ညီမျှသော ဂုဏ်(၃)ပါးကိုလည်း တွေ့သိကြရပေသည်။

သင်္ခါရုပေက္ခာဉာဏ်၌ ထူးခြားသော ဂုဏ်(၃)ပါးကို တွေ့သိရပုံမှာ ဝိပဿနာတရားအားထုတ်ကြသော ယောဂီပုဂ္ဂိုလ်တို့သည် သင်္ခါရုပေက္ခာဉာဏ်သို့ ရောက်လာသောအခါ သင်္ခါရုပေက္ခာဉာဏ်၏ ထူးခြားသော ဂုဏ်(၃)ပါးကိုလည်း တွေ့သိကြရပေသည်။

(၁) အောက်အောက်ဉာဏ်များထက် ကြာရှည်စွာ အမှတ်တွေ တစ်ဆက်တည်း တည်နေရအောင် ရှုမှတ်လာနိုင်ခြင်းကိုလည်း တွေ့သိရပေသည်။

(၂) မှတ်စရာအာရုံများက ကြာလေကြာလေ သိမ်မွေ့လာပါသော်လည်း မှတ်သိစိတ်များက အလွန် သိမ်မွေ့သောအာရုံများကို မလွတ်တမ်း ရှုမှတ်နိုင်ခြင်းကို တွေ့သိလာကြရပေသည်။

(၃) မှတ်သိစိတ်များသည် အောက်အောက်ဉာဏ်များ၌ကဲ့သို့ အာရုံတစ်ပါးသို့ ပျံ့လွင့်သွားခြင်း မရှိတော့ပါဘဲ မှတ်စရာအာရုံများ၌ ကပ်လျက်ကပ်လျက် တည်နေသည်ကိုလည်း တွေ့သိကြရပေသည်။ ထိုကဲ့သို့ သင်္ခါရုပေက္ခာဉာဏ်၏ ထူးခြားသော ဂုဏ်(၃)ပါးကိုလည်း တွေ့သိကြရပေသည်။

## မှတ်စရာသင်္ခါရအာရုံမှ ချုပ်ငြိမ်းရာနိဗ္ဗာန်အာရုံသို့ ရောက်သွားပုံ

ဤကဲ့သို့ သင်္ခါရုပေက္ခာဉာဏ်၏ ညီမျှသော ဂုဏ်(၃)ပါးနှင့် ထူးခြားသော ဂုဏ်(၃)ပါးတို့ကို တွေ့သိပြီးသောအခါ ယောဂီ

ပုဂ္ဂိုလ်၏ ရှုမှတ်ချက်တို့သည် ရှေ့ကထက် ပို၍ပို၍ သွက်လက် လာတတ်ကြပေသည်။ ပို၍ပို၍ မှတ်လို့ကောင်းလာတတ်ကြ ပေသည်။ ထို့နောက် ရှုမှတ်ချက်တိုင်း ရှုမှတ်ချက်တိုင်းတို့၌ ယောဂီပုဂ္ဂိုလ်၏ အသိဉာဏ်တို့သည် တစ်ကြိမ်ထက်တစ်ကြိမ် သာလွန်၍ သွက်လက်ရှင်းလင်းစွာ သိလာတတ်ကြပေသည်။

ထိုသွက်လက်ရှင်းလင်းစွာ သိလာသော အသိဉာဏ် တို့သည် (၃)ကြိမ်၊ (၄)ကြိမ်မျှဖြစ်ပြီးသောအခါ နောက်ဆုံးအသိ ဉာဏ်၊ နောက်ဆုံးမှတ်ချက်၏ အခြားမဲ့၌ မှတ်စရာသင်္ခါရအာရုံ အလုံးစုံတို့ကို စွန့်လွှတ်ပြီးလျှင် သင်္ခါရတို့၏ ချုပ်ငြိမ်းရာနိဗ္ဗာန် အာရုံသို့ ကူးပြောင်းကာ ရောက်ရှိသွားကြပေသည်။ အာရုံပြု သောအားဖြင့် ရောက်သွားကြပေသည်။

ထိုသို့ သင်္ခါရတို့၏ ချုပ်ငြိမ်းရာနိဗ္ဗာန်အာရုံသို့ ရောက် သွားကြသော ယောဂီပုဂ္ဂိုလ်တို့သည် ဤကဲ့သို့ ပြောပြလေ့ရှိကြ ပေသည်။ "အာရုံနှင့်အမှတ်တွေ အကုန်လုံး တိခနဲ ပြတ်စဲသွား သည်ဟူ၍လည်းကောင်း။ နွယ်တန်းကြီးများကို ဓားဖြင့် ဖြတ်ချ လိုက်သလိုပင် အာရုံနှင့်အမှတ်တွေ တိခနဲ ပြတ်သွားသည် ဟူ၍လည်းကောင်း၊ လေးလံသော ဝန်ထုပ်ကြီးကို တွန်းချ လိုက်သကဲ့သို့ပင် အာရုံနှင့်အမှတ်တွေ အကုန်လုံး ပြုတ်ကျ သွားသည်ဟူ၍လည်းကောင်း။ အကျဉ်းအကျပ်အနှောင်အဖွဲ့ထဲမှ

ရုတ်တရက် လွတ်သွားသလိုပင် အာရုံတွေ အမှတ်တွေမှ ကျွတ်လွတ်သွားသည်ဟူ၍လည်းကောင်း" ပြောပြလေ့ရှိကြပေသည်။

အချို့အချို့သော ယောဂီပုဂ္ဂိုလ်တို့၏ ချုပ်ငြိမ်းရာနိဗ္ဗာန်အာရုံသို့ ရောက်သွားပုံကို ပြောပြပုံမှာ စာပေကျမ်းဂန်များနှင့်အလွန်လျော်ညီစွာ ပြောပြခြင်းများ ဖြစ်ကြပေသည်။ "အာရုံနှင့်အမှတ်တွေ ပြတ်သွားပုံက မီးတောက်ကလေးငြိမ်းသွားသကဲ့သို့ပင် အလွန်လျင်မြန်တာပဲဟူ၍လည်းကောင်း၊ အမှောင်ထဲမှ အလင်းထဲသို့ ရုတ်တရက် ရောက်သွားသလိုပင် အာရုံနှင့်အမှတ်တွေ လွတ်သွားသည်ဟူ၍လည်းကောင်း။ အရှုပ်ထဲမှ အရှင်းထဲသို့ ဖျတ်ခနဲ ရောက်သွားသလိုပင် အာရုံနှင့်အမှတ်တွေ လွတ်ထွက်သွားသည်ဟူ၍လည်းကောင်း။ ရေထဲမှာ မြုပ်သွားသလိုပင် အာရုံရော မှတ်စိတ်တွေရော မြုပ်သွားသည်ဟူ၍လည်းကောင်း" စသည်ဖြင့် ချုပ်ငြိမ်းရာနိဗ္ဗာန်အာရုံသို့ ရောက်သွားပုံများကို ပြောဆိုလေ့ရှိကြပေသည်။

ဤကဲ့သို့ မှတ်စရာ သင်္ခါရအာရုံတို့မှ ချုပ်ငြိမ်းရာနိဗ္ဗာန်အာရုံသို့ ရောက်သွားခြင်းသည် မဂ်ဉာဏ်၊ ဖိုလ်ဉာဏ်တို့ဖြင့်ရောက်သွားခြင်းပင် ဖြစ်လေသည်။ မဂ်ဉာဏ်၊ ဖိုလ်ဉာဏ်တို့ဖြစ်လာခြင်းပင် ဖြစ်ပေသည်။ ထိုသို့ မဂ်ဉာဏ်၊ ဖိုလ်ဉာဏ်တို့မဖြစ်မီ တစ်ကြိမ်ထက်တစ်ကြိမ် သာလွန်၍ သွက်လက်ထင်ရှားစွာ

ဖြစ်လာသော ဉာဏ်တို့သည် အနုလောမဉာဏ်နှင့် ဂေါတြဘူ ဉာဏ်တို့ ဖြစ်ကြပေသည်။

## ပစ္စဝေက္ခဏာဉာဏ်ဖြစ်ပုံ

ထိုသို့ ချုပ်ငြိမ်းရာနိဗ္ဗာန်အာရုံသို့ ရောက်သွားကြသော အချိန်ကာလသည် တစ်ခဏမျှသာ ဖြစ်ကြပေသည်။ ထို့နောက် ချုပ်ငြိမ်းရာသို့ ရောက်ပုံများကို ပြန်၍ဆင်ခြင်မိတတ်ကြပေသည်။ "အာရုံနှင့်အမှတ်တွေ ချုပ်ပြတ်သွားကာ ချုပ်ငြိမ်းသွားသည်မှာ ထူးတရားမြတ်ပဲ၊ မဂ်ဖိုလ်နိဗ္ဗာန်ပဲ"ဟု ဆင်ခြင်မိတတ်ကြပေသည်။ ဤကဲ့သို့ ဆင်ခြင်ခြင်းသည် ပစ္စဝေက္ခဏာဉာဏ် ဖြစ်လာခြင်းပင် ဖြစ်ပေသည်။

## နိဗ္ဗာန်နှင့် မဂ်ဖိုလ်ကို ဆင်ခြင်ပုံ

အချို့သော စာပေကျမ်းဂန် ဗဟုသုတရှိကြသော ယောဂီပုဂ္ဂိုလ်တို့မှာ ဤကဲ့သို့ ဆင်ခြင်မှုများ ဖြစ်လာတတ်ကြပေသည်။ "ချုပ်ငြိမ်းရာနိဗ္ဗာန်အာရုံသို့ ရောက်သွားပြီးနောက် သင်္ခါရအာရုံတို့ကို ပြန်သိလာသောအခါ သင်္ခါရအာရုံတွေ ချုပ်ငြိမ်းသွားသည်မှာ နိဗ္ဗာန်ပင် ဖြစ်ပေသည်။ ချုပ်ငြိမ်းရာသို့ ရောက်သွားသည်ကို သိသည်မှာ မဂ်ဉာဏ်၊ ဖိုလ်ဉာဏ်၊ မဂ်ဖိုလ် တရားတို့ပင် ဖြစ်ပေသည်။ မိမိသည် နိဗ္ဗာန်ကို မျက်မှောက်

တွေ့သိရပေပြီ၊ သောတာပတ္တိမဂ်ဖိုလ်ကိုရပြီ"ဟု ဆင်ခြင်မိတတ်ကြပေသည်။

## ပယ်ပြီးနှင့် မပယ်ရသေးသော ကိလေသာကို ဆင်ခြင်ပုံ

ထို့အပြင် "ယခုလိုချုပ်ငြိမ်းရာသို့ ရောက်သွားပြီးသောအခါ မိမိ၏စိတ်တွေ အလွန်ကြည်လင် သန့်ရှင်းနေသည်ကို တွေ့သိရသောကြောင့် မိမိမှာ အပါယ်ကျစေနိုင်လောက်အောင် ကြမ်းတမ်းသည့် ကိလေသာများမရှိတော့ပေ"ဟု ပယ်ပြီးကိလေသာများကိုလည်း ဆင်ခြင်မိတတ်ကြပေသည်။ "ကိလေသာများအားလုံးကိုတော့ မပယ်ရသေးပေ၊ ပြန်၍ရှုမှတ်ရဦးမည်"ဟု မပယ်ရသေးသည့် ကိလေသာများကိုလည်း ဆင်ခြင်မိတတ်ကြပေသည်။ ဤကဲ့သို့ ဆင်ခြင်ခြင်းသည် ပစ္စဝေက္ခဏာဉာဏ် ဖြစ်လာခြင်းပင်ဖြစ်ပေသည်။

## ပစ္စဝေက္ခဏာဉာဏ် (၁၉)ပါးဖြစ်ပုံ

ဤကဲ့သို့ မှတ်စရာ သင်္ခါရအာရုံများမှ ချုပ်ငြိမ်းရာနိဗ္ဗာန်အာရုံသို့ ရောက်သွားပြီးသောအခါ သောတာပန်ပုဂ္ဂိုလ်များမှာ ပစ္စဝေက္ခဏာဉာဏ် (၅)ပါး ဖြစ်လာကြပေသည်။

(၁) ချုပ်ငြိမ်းရာနိဗ္ဗာန်ချမ်းသာကို ဆင်ခြင်ခြင်း၊
(၂) ကိလေသာတို့ကိုပယ်သော မဂ်ကို ဆင်ခြင်ခြင်း၊
(၃) ကိလေသာတို့ကို ငြိမ်းစေသော ဖိုလ်ကို ဆင်ခြင်ခြင်း၊
(၄) ပယ်ပြီးသော ကိလေသာတို့ကို ဆင်ခြင်ခြင်း၊
(၅) မပယ်ရသေးသော ကိလေသာတို့ကို ဆင်ခြင်ခြင်း ဟူ၍ သောတာပန်ပုဂ္ဂိုလ်အား ပစ္စဝေက္ခဏာ ဉာဏ် (၅)ပါး ဖြစ်လာပေသည်။

သောတာပန်ပုဂ္ဂိုလ်နှင့် အလားတူ သကဒါဂါမ်ပုဂ္ဂိုလ် ဖြစ်ပြီးသောအခါမှာလည်း ပစ္စဝေက္ခဏာဉာဏ် (၅)ပါး ဖြစ်လာပေသည်။ အနာဂါမ်ပုဂ္ဂိုလ်ဖြစ်ပြီးသောအခါမှာလည်း ပစ္စဝေက္ခဏာဉာဏ် (၅)ပါး ဖြစ်လာပေသည်။ ရဟန္တာဖြစ်ပြီးသောအခါမှာတော့ မပယ်ရသေးသော ကိလေသာများ မရှိတော့၍ မဆင်ခြင်ရသောကြောင့် ပစ္စဝေက္ခဏာဉာဏ် (၄)ပါးပင် ဖြစ်လာပေသည်။ ဤကဲ့သို့ ပစ္စဝေက္ခဏာဉာဏ်တို့သည် (၁၉)ပါး ဖြစ်ကြပေသည်။

သဒ္ဓမ္မရံသီရိပ်သာဆရာတော်

၇-၆-၉၉

# ဤစာအုပ်မှာ သိကောင်းစရာ
# ဆောင်ပုဒ်များ

- သုခကိန်းလာ၊ လောဘသာ၊ မှန်စွာပယ်ရမည်။
  သုခပေါ်လျှင်၊ ဒုက္ခထင်၊ အမှန်ပင်ရှုရမည်။

- ပညတ်ထင်ရှား၊ ပရမတ်ကား၊ ငုပ်သွားလေသည်သာ။
  ပရမတ်ထင်ရှား၊ ပညတ်ကား၊ ငုပ်သွားလေသည်သာ။

- ကြောက်နှစ်သက်ခြင်း၊ ကင်းရှင်းပေသည်၊
  ချမ်းသာဆင်းရဲ၊ ရှုမြဲတူညီ၊
  ကြောင့်ကြမပြု၊ မှတ်ရှုလွယ်သည်၊
  အင်္ခါရ၊ ညီမှုဂုဏ်သုံးမည်။

- ကြာရှည်စွာလည်း၊ တည်မြဲသူတည်၊
  ကြာလေသာ၍၊ သိမ်မွေ့လေသည်၊
  အာရုံတခြား၊ ပျံ့သွားကင်းသည်၊
  သင်္ခါရ၊ ထူးမှုဂုဏ်သုံးမည်။